


# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်



## ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၉၉/၂၀၁၃။ ၂၀၁၃ ခုနှစ်၊ မတ် လ ၂၉ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဗိုလ်ချုပ်ဇာနည်ဝင်း

(ခ) အဘ အမည် ဗိုလ်မှူးကြီး ဝင်း(ငြိမ်း)

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ဒဂန (နိုင်) ၀၁၀၂၂၀

(ဃ) နေရပ်လိပ်စာ ပစ္စည်းဝယ်ယူမှု ညွှန်ကြားရေးမှူးရုံး၊ ရွာတော်၊ နေပြည်တော်။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း Myanma Economic Holdings Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား တစ်ရက်လျှင် တန်(၁၂၀၀)ကျ (TPD Dry) ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးရှိ မြေ(၂၅၂.၃၇)ဧက အနက် မြေ(၂၂.၂၃)ဧက

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၂၈၃၄၀.၀၀(သန်း) (ယူရို(၂၅.၆၀)သန်း အပါအဝင် စုစုပေါင်း ကျပ် နှစ်သောင်း ရှစ်ထောင် သုံးရာ လေးဆယ်သန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၃၃ /၂၀၁၃ (မနသ)

၂၀၁၃ ခုနှစ် မတ် လ ၂၉ ရက်

၁။ Myanma Economic Holdings Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးရှိ မြေ (၂၅၂.၃၇)ဧက အနက် (၂၂.၂၃)ဧက တွင် တစ်ရက်လျှင် ဘိလပ်မြေ တန်(၁၂၀၀)ကျ TPD (Dry) ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၉-၃-၂၀၁၃)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၁၃) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Myanma Economic Holdings Ltd. အား တစ်ရက်လျှင် ဘိလပ်မြေ တန်(၁၂၀၀)ကျ TPD (Dry) ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၉၉ /၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ Myanma Economic Holdings Ltd. အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ယင်းဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန် လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ကနဦး ရင်းနှီး မြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေ ထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤ ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ စက်ပစ္စည်း သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်း များအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်း ထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင် သည့် အမှတ်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန် ပစ္စည်း၊ စက်ကိရိယာအစိတ်အပိုင်း၊ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် အကောက် ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် ဥပဒေပုဒ်မ ၁၃(ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ နှင့်ပတ်သက်၍ တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် လိုက်နာဆောင်ရွက်ရမည်။

၄။ Myanma Economic Holdings Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Myanma Economic Holdings Ltd. သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိရမည်။

၆။ Myanma Economic Holdings Ltd. သည် China Mianyang Hi-Wish Trading Co., Ltd. ထံမှ ချေးငွေရယူမည်ဟု တင်ပြထားရာ ချေးငွေရယူခြင်း ကိစ္စသည် ငွေချေးငှားသူနှင့် ချေးယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။ Myanma Economic Holdings Ltd. အနေဖြင့် အဆိုပါ ငွေချေးယူခြင်း ကိစ္စကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ဗဟိုဘဏ် နှင့် ဆက်သွယ်ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၈။ Myanma Economic Holdings Ltd. သည် လျှပ်စစ်ဓါတ်အားရယူမှု၊ ထုတ်လုပ်မှုနည်းပညာ၊ ထုတ်လုပ်မှု အရည်အသွေး၊ Trade Mark ကုန်ပစ္စည်း အမှတ်တံဆိပ် အမည်၊ အမှတ်အသား၊ ဈေးကွက်ပိုင်းဆိုင်ရာတို့နှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ၎င်းအပြင် သက်ဆိုင်ရာ ဌာနများ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၉။ Myanma Economic Holdings Ltd. မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင် နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယား စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၀။ Myanma Economic Holdings Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ

ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၁။ Myanma Economic Holdings Ltd. သည် အဆိုပြုချက်တွင် ဝန်ခံကတိ ပြုထားသည့်အတိုင်း ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၂။ Myanma Economic Holdings Ltd. သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ Myanma Economic Holdings Ltd. မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၅။ အဆိုပြု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြု

မိန့်မှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်း စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်) နှစ် အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။



(စိုးသိန်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က) /မ- ၁၂၉၉/၂၀၁၃( ၄၀၆၆ )

ရက်စွဲ ၊ ၂၀၁၃ ခုနှစ် မတ် လ ၂၉ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ဆက်သွယ်ရေး၊ သတင်းအချက် အလက်နှင့် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ကျန်းမာရေးဝန်ကြီးဌာန

တိုင်းဒေသကြီးအစိုးရအဖွဲ့၊ မန္တလေးတိုင်းဒေသကြီး

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသား မှတ်ပုံတင်ရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

မန်နေးဂျင်းဒါရိုက်တာ ၊ Myanma Economic Holdings Ltd.




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်




ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၉၉ / ၂၀ ၁၃ ။ ၂၀ ၁၃ခုနှစ်၊ မတ် လ ၂၉ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဗိုလ်ချုပ်ဇာနည်ဝင်း

(ခ) အဘ အမည် ဗိုလ်မှူးကြီး ဝင်း(ငြိမ်း)

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ဒဂန (နိုင်) ၀၁၀၂၂၀

(ဃ) နေရပ်လိပ်စာ ပစ္စည်းဝယ်ယူမှု ညွှန်ကြားရေးမှူးရုံး၊ ရွာတော်၊ နေပြည်တော်။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့ အစည်း Myanma Economic Holdings Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား တစ်ရက်လျှင် တန်(၁၂၀၀)ကျ (TPD Dry) ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးရှိ မြေ(၂၅၂.၃၇)ဧက အနက် မြေ(၂၂.၂၃)ဧက

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၂၈၃၄၀.၀၀(သန်း) (ယူရို(၂၅.၆၀)သန်း အပါအဝင် စုစုပေါင်း ကျပ် နှစ်သောင်း ရှစ်ထောင် သုံးရာ့ လေးဆယ်သန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

၆

ROM : FAX NO. : 2 Apr. 2013 1:23PM P1



# MYANMA ECONOMIC HOLDINGS LIMITED
## မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်


Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.


*Reference No.* ဦးပိုင်/ဆင်မင်း-၃/ထွေ(၀၈၂ /၂၀၁၃) *Date* ၂၀၁၃ ခုနှစ် ဧပြီလ ( ၂ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **ဆင်မင်း(၃)ဘိလပ်မြေစက်ရုံMIC ခွင့်ပြုချက်နှင့် စက်ရုံတည်ဆောက်ရေးကိစ္စဆောင်ရွက်ရန် တင်ပြခြင်း**

၁။ ဆင်မင်း(၃)1200 TPD Dry (Add On) ဘိလပ်မြေစက်ရုံစီမံကိန်းအား၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရယူရန်နှင့် စက်ရုံတည်ဆောက်ရေးစီမံကိန်းကိစ္စအဝဝဆောင်ရွက်ရန်အတွက် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ဦးလှစိန်၊ ဆင်မင်း(၃)ဘိလပ်မြေစက်ရုံမှူး၊ စက်ရုံတည်ဆောက်ရေးစီမံကိန်းဒါရိုက်တာနှင့် ဦးကျော်လင်းဦး၊ အထွေထွေမန်နေဂျာတို့အား ကိုယ်စားလှယ်အဖြစ် စေလွှတ်အပ်ပါသည်။

၂။ ၎င်းကိုယ်စားလှယ်တို့၏ ထိုးမြဲလက်မှတ်နမူနာမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

ဦးလှစိန် (က)-------------------- (ခ)-------------------- (ဂ)--------------------

ဦးကျော်လင်းဦး (က)-------------------- (ခ)-------------------- (ဂ)--------------------

၁/၄/၁၃

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)
ဦးသန်းထွန်း
ဌာနကြီးမှူး၊အထွေထွေအုပ်ချုပ်ရေးဌာနကြီး

မိတ္တူကို
- ရုံးလက်ခံ/မျှောစာတွဲ




# MYANMA ECONOMIC HOLDINGS LIMITED
## မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

**Reference No.** ဦးပိုင်/ဆင်မင်း-၃/ထွေ(၀၈၂ /၂၀၁၃)　　**Date** ၂၀၁၃ ခုနှစ် ဧပြီလ ( ၂ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ MICခွင့်ပြုချက်နှင့် စက်ရုံတည်ဆောက်ရေးကိစ္စဆောင်ရွက်ရန် တင်ပြခြင်း**

၁။ ဆင်မင်း(၃)1200 TPD Dry (Add On) ဘိလပ်မြေစက်ရုံစီမံကိန်းအား၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရယူရန်နှင့် စက်ရုံတည်ဆောက်ရေးစီမံကိန်းကိစ္စအဝဝ ဆောင်ရွက်ရန်အတွက် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ဦးလှစိန် ဆင်မင်း(၃)ဘိလပ်မြေစက်ရုံမှူး၊ စက်ရုံတည်ဆောက်ရေးစီမံကိန်းဒါရိုက်တာနှင့် ဦးကျော်လင်းဦး အထွေထွေမန်နေဂျာတို့အား ကိုယ်စားလှယ်အဖြစ် စေလွှတ်အပ်ပါသည်။

၂။ ၎င်းကိုယ်စားလှယ်တို့၏ ထိုးမြဲလက်မှတ်နမူနာမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | |
|---|---|---|---|
| ဦးလှစိန် | (က)-------------- | (ခ)-------------- | (ဂ)-------------- |
| ဦးကျော်လင်းဦး | (က)-------------- | (ခ)-------------- | (ဂ)-------------- |

မန်နေဂျင်းဒါရိုက်တာ (ကိုယ်စား/)
ဦးလှစိန်၊ ဆင်မင်း(၃) စီမံကိန်းဒါရိုက်တာ၊

မိတ္တူကို
- ရုံးလက်ခံ/မျှောစာတွဲ

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၃ ခုနှစ် မတ်လ ၂၆ ရက်

အကြောင်းအရာ။ **Myanma Economic Holdings Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးတွင် တစ်ရက်လျှင် တန် (၁၂၀၀) TPD (Dry) ဆင်မင်း(၃)ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Myanma Economic Holdings Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးရှိ မြေ (၂၅၂.၃၇)ဧက အနက် (၂၂.၂၃)ဧကတွင် တစ်ရက်လျှင် ဘိလပ်မြေ တန်(၁၂၀၀)ကျ TPD (Dry) ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအား ကော်မရှင်၏ (၁၁/၂၀၁၃)(၂၉-၃-၂၀၁၃)အစည်းအဝေးသို့ တင်ပြခဲ့ရာ လုပ်ငန်း ဆောင်ရွက် ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Myanma Economic Holdings Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးရှိ မြေ (၂၅၂.၃၇)ဧက အနက် (၂၂.၂၃)ဧကတွင် တစ်ရက်လျှင် ဘိလပ်မြေ တန်(၁၂၀၀)ကျ TPD (Dry) ဆင်မင်း (၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် သက်ဆိုင်ရာ ရင်းနှီးမြှုပ်နှံသူသို့ ထုတ်ပေးမည့် **ခွင့်ပြုမိန့် နှင့် အမိန့် ကြော်ငြာစာ (စာချော)** တို့တွင် **ဥက္ကဋ္ဌမှ** လက်မှတ် ရေးထိုးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

၃။ ညွှန်ကြားရေးမှူးချုပ် ပြည်ပခရီးသွားရောက်နေပါသဖြင့် ဒုတိယညွှန်ကြားရေးမှူးချုပ်မှ လက်မှတ်ရေးထိုး တင်ပြရခြင်း ဖြစ်ပါသည်။

(ချိုချိုဝင်း)
ဒုတိယညွှန်ကြားရေးမှူးချုပ်

**ဥက္ကဋ္ဌ**

၄။



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်



# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၉၉ / ၂၀၁၃။ ၂၀၁၃ခုနှစ်၊ မတ် လ ၂၆ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၁ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဗိုလ်ချုပ်ဇာနည်ဝင်း

(ခ) အဘ အမည် ဗိုလ်မှူးကြီး ဝင်း(ငြိမ်း)

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ဒဂန (နိုင်) ၀၁၀၂၂၀

(ဃ) နေရပ်လိပ်စာ ပစ္စည်းဝယ်ယူမှု ညွှန်ကြားရေးမှူးရုံး၊ ရွာတော်၊ နေပြည်တော်။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း Myanma Economic Holdings Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား တစ်ရက်လျှင် တန်(၁၂၀၀)ကျ (TPD Dry) ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးရှိ မြေ(၂၅၂.၃၇)ဧက အနက် မြေ(၂၂.၂၃)ဧက

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၂၈၃၄၀.၀၀(သန်း) (ယူရို(၂၅.၆၀)သန်း အပါအဝင် စုစုပေါင်း ကျပ် နှစ်သောင်း ရှစ်ထောင် သုံးရာ့ လေးဆယ်သန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၃၃ /၂၀၁၃ (မနသ)

၂၀၁၃ ခုနှစ် မတ် လ ၂၉ ရက်

၁။ Myanma Economic Holdings Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးရှိ မြေ (၂၅၂.၃၇)ဧက အနက် (၂၂.၂၃)ဧက တွင် တစ်ရက်လျှင် ဘိလပ်မြေ တန်(၁၂၀၀)ကျ TPD (Dry) ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၉-၃-၂၀၁၃)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၁၃) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Myanma Economic Holdings Ltd. အား တစ်ရက်လျှင် ဘိလပ်မြေ တန်(၁၂၀၀)ကျ TPD (Dry) ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၉၉ /၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ Myanma Economic Holdings Ltd. အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ယင်းဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန် လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။



MEH Cement (permit).docx

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေ ထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤ ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ စက်ပစ္စည်း သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်း များအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့် နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်း ထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင် သည့် အမှတ်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန် ပစ္စည်း၊ စက်ကိရိယာအစိတ်အပိုင်း၊ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် အကောက် ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် ဥပဒေပုဒ်မ ၁၃(ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ နှင့်ပတ်သက်၍ တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် လိုက်နာဆောင်ရွက်ရမည်။

၄။ Myanma Economic Holdings Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Myanma Economic Holdings Ltd. သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိရမည်။

၆။ Myanma Economic Holdings Ltd. သည် China Mianyang Hi-Wish Trading Co., Ltd. ထံမှ ချေးငွေရယူမည်ဟု တင်ပြထားရာ ချေးငွေရယူခြင်း ကိစ္စသည် ငွေချေးငှားသူနှင့် ချေးယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။ Myanma Economic Holdings Ltd. အနေဖြင့် အဆိုပါ ငွေချေးယူခြင်း ကိစ္စကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ဗဟိုဘဏ် နှင့် ဆက်သွယ် ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ Myanma Economic Holdings Ltd. သည် လျှပ်စစ်ဓါတ်အားရယူမှု၊ ထုတ်လုပ်မှု နည်းပညာ၊ ထုတ်လုပ်မှု အရည်အသွေး၊ Trade Mark ကုန်ပစ္စည်း အမှတ်တံဆိပ် အမည်၊ အမှတ် အသား၊ ဈေးကွက်ပိုင်းဆိုင်ရာတို့နှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ၎င်းအပြင် သက်ဆိုင်ရာ ဌာနများ၏ ညွှန်ကြားချက်များ အတိုင်း လိုက်နာဆောင်ရွက်ရမည်။

၉။ Myanma Economic Holdings Ltd. မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင် နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယား စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြ ထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၀။ Myanma Economic Holdings Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံ များကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ

ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၁။ Myanma Economic Holdings Ltd. သည် အဆိုပြုချက်တွင် ဝန်ခံကတိ ပြုထားသည့်အတိုင်း ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၂။ Myanma Economic Holdings Ltd. သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ Myanma Economic Holdings Ltd. မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၅။ အဆိုပြု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြု

မိန့်မှ ထုတ်ပေးမည့် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်း စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်) နှစ် အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(စိုးသိန်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရကက- ၆(က) /မ- ၁၂၉၉/၂၀၁၃( ၄၀၆၆ )

ရက် စွဲ ၊ ၂၀၁၃ ခုနှစ် မတ် လ ၂၉ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ဆက်သွယ်ရေး၊ သတင်းအချက် အလက်နှင့် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ကျန်းမာရေးဝန်ကြီးဌာန

တိုင်းဒေသကြီးအစိုးရအဖွဲ့၊ မန္တလေးတိုင်းဒေသကြီး

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသား မှတ်ပုံတင်ရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

မန်နေးဂျင်းဒါရိုက်တာ၊ Myanma Economic Holdings Ltd.

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကဗ-၆(က)/မ-၁၂၉၉/၂၀၁၃(၃၆၂၉-၈)

ရက်စွဲ၊ ၂၀၁၃ ခုနှစ် မတ် လ ၁၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Myanma Economic Holdings Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးတွင် တစ်ရက်လျှင် တန် (၁၂၀၀)ကျ TPD (Dry) ဆင်မင်း(၃)ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Myanma Economic Holdings Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးရှိ မြေ (၂၅၂.၃၇)ဧက အနက် (၂၂.၂၃)ဧကတွင် တစ်ရက်လျှင် ဘိလပ်မြေ တန်(၁၂၀၀)ကျ TPD (Dry) Add on ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကို လက်ခံရရှိခဲ့ပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်နှင့် စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့၊ စက်မှုဝန်ကြီးဌာန၊ သတ္တုတွင်းဝန်ကြီးဌာနနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ (နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် သို့မဟုတ် လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်မှု မရှိပါကြောင်း၊

(၂) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ကိုက်ညီမှု ရှိပါကြောင်း၊

(၃) ဖော်ပြပါ မြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့ အရ လက်ခံနိုင်ပါကြောင်း၊

(၄) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အကြံပြုရန် မရှိပါကြောင်း၊

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီး ဌာန (နောက်ဆက်တွဲ-ခ)**

(၁) ထုံးကျောက် တူးဖော်ခြင်းနှင့် ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရေး၊ ဒေသခံ ပြည်သူများ ဘေးအန္တရာယ် ကျရောက်မှု မရှိစေရေးနှင့် နစ်နာမှု မရှိစေရေးအတွက် လုပ်ငန်းအကောင်အထည် မဖော်မီ ပတ်ဝန်းကျင် နှင့် လူမှုရေးအပေါ် ထိခိုက်မှု ဆန်းစစ်ခြင်း ( Environmental and Social Impact Assessment - ESIA) လုပ်ငန်းများ

ကန့်သတ်

ဆောင်ရွက်ပြီးမှသာ လုပ်ငန်း ဆောင်ရွက်ခွင့်ကို စိစစ်ခွင့်ပြုရန်၊ ပတ်ဝန်းကျင် နှင့် လူမှုရေးအပေါ် ထိခိုက်မှု ဆန်းစစ်ခြင်း (ESIA)ဆောင်ရွက်ရန် နှင့် ESIA အစီရင်ခံစာ တင်ပြရန်၊

(၂)အထက်ပါ ဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင် ၊ လူမှုရေးနှင့် ကျန်းမာရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းလမ်းများ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်( Environmental Management Plan-EMP) ရေးဆွဲ တင်ပြရန် နှင့် EMP အစီအစဉ်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၃)နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေတို့နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၄)စီမံကိန်းလုပ်ငန်း နှင့်စပ်လျဉ်း၍ ဒေသခံပြည်သူများ သိရှိနားလည်စေရန် ရှင်းလင်းဆွေးနွေးပြီး သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ဒေသခံလူထု၏ အကြံပြုသဘောထားများ ရယူဆောင်ရွက်ရန်နှင့် ၎င်းတို့၏ လူမှုဖွံ့ဖြိုးရေး အစီအမံများ ထည့်သွင်း ဆောင်ရွက်ရန်၊

**( ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ESIA လုပ်ငန်းများ ဆောင်ရွက်ပြီးစီးမှု အစီရင်ခံစာ၊ EMP ဆောင်ရွက်မည့် အစီအမံများ ဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီ တင်ပြထားပါသည်။ နောက်ဆက်တွဲ - စ )**

(ဂ) **စက်မှုဝန်ကြီးဌာန (နောက်ဆက်တွဲ - ဂ)**

(၁)တစ်နေ့တန် (၁၂၀၀)ကျ TPD (Dry)စနစ်ဖြင့် ဆင်မင်း(၃)ဘိလပ်မြေ စက်ရုံတည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဟု ဖော်ပြထားပါကြောင်း၊

(၂)အဓိက ကုန်ကြမ်းဖြစ်သော ထုံးကျောက်ကို မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ နွားလည်ကောက်တောင် ဒေသရှိ ထုံးကျောက်သိုက် (၂၁၆)ဧက နှင့် ကျောက်ပုခက်တောင် ဒေသရှိ ထုံးကျောက်သိုက်(၁၄၁.၂၅)ဧကတို့မှ ထုတ်ယူသုံးစွဲမည် ဖြစ်ပါကြောင်း၊ သုံးစွဲနိုင်မှုကာလမှာ နှစ်(၁၂၀)ခန့် ဖြစ်ပါကြောင်း၊

(၃)အခြားကုန်ကြမ်းဖြစ်သည့် ကျောက်မီးသွေးကို စစ်ကိုင်းတိုင်းဒေသကြီး၊ ကလေးဝမြို့နယ်၊ ကျောက်အုံချောင်းဒေသရှိ ကျောက်မီးသွေး လုပ်ကွက်(၅၁၆၅.၂၅)ဧကမှ

ထုတ်ယူ သုံးစွဲမည်ဖြစ်ပြီး ဂေါ်ဒန်ကျောက်ကို သီပေါမြို့နယ်ရှိ သတ္တု(၃)မိုင်းမှ ဝယ်ယူ သုံးစွဲမည် ဖြစ်ပါကြောင်း၊

(၄) ဘိလပ်မြေစက်ရုံကို Computer Control စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး တစ်နေ့တန် ၁၂၀၀ Add on လုပ်ငန်းအတွက် Impact Hammer Crusher, Jaw Crusher ကုန်ကြမ်းကြိတ်စက် Shaft Raw Mill, Coal Mill တို့ပါဝင် သော်လည်း စက်စွမ်းအားများ အသေးစိတ် ဖော်ပြထားခြင်း မရှိပါကြောင်း၊

( အထက် အပိုဒ်ခွဲ-၄ ပါ ကိစ္စနှင့်စပ်လျဉ်း၍ ကုမ္ပဏီမှ အသုံးပြုမည့် စက်များ၏ Capacity ကို ပြန်လည် တင်ပြထားပါသည်။)

(၅) ကုန်ကြမ်း လိုအပ်ချက် နှင့် ကုန်ချော ထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိပါကြောင်း၊

(၆) နှစ်စဉ် ထုတ်လုပ်မှု နှင့် စက်အင်အား/လူအင်အား အချိုးအစား ညီမျှမှု ရှိပါကြောင်း၊

(၇) ထုတ်လုပ်မှုနှုန်းများ တင်ပြထားရှိမှု နှင့် ဈေးနှုန်း တင်ပြထားမှုများ ဆီလျော်မှု ရှိပါကြောင်း၊

(၈) ပတ်ဝန်းကျင် လေထုညစ်ညမ်းမှု မဖြစ်ပေါ်စေရေး သတိပြု ဆောင်ရွက်ရန်နှင့် သက်ဆိုင်ရာ ဒေသဌာန အဖွဲ့အစည်းများ နှင့် ပတ်ဝန်းကျင်တွင် နေထိုင်သူများ၏ သဘောထားများ ရယူဆောင်ရွက်သင့်ပါကြောင်း၊

(ဃ) **သတ္တုတွင်း ဝန်ကြီးဌာန (နောက်ဆက်တွဲ-ဃ)**

(၁) Myanma Economic Holdings Ltd. မှ တစ်ရက်လျှင် တန်(၁၂၀၀) ကျ TDP (Dry) Add On ဆင်မင်း(၃) ဘိလပ်မြေစက်ရုံအတွက် တစ်နှစ် ကုန်ကြမ်း လိုအပ်ချက်နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်-

(ကက) ထုံးကျောက် တစ်နှစ် လိုအပ်ချက် လျာထားတန်ချိန် (၅၄၃,၄၇၇)တန်အား မန္တလေးတိုင်း ဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ နွားလည်ကောက်တောင်၊ မြောက်ဘက်ခြမ်း လုပ်ကွက် ဧရိယာ (၂၁၆)ဧက၊ ကျောက်ဆည်မြို့နယ်၊ ရဲဘော်ကြီးကျေးရွာအုပ်စု၊ ကျောက်ပုခက်တောင် လုပ်ကွက် ဧရိယာ (၁၄၁.၂၅)ဧက လုပ်ကွက်(၂)ကွက်တို့မှ ထုတ်ယူနိုင်ပါကြောင်း၊

(ခခ) ကျောက်မီးသွေး တစ်နှစ် လိုအပ်ချက် တန်ချိန်(၄၂,၃၄၈)အား ကလေးဝ မြို့နယ်၊ ကျောက်အုံးချောင်းဒေသ၊ ဧရိယာ(၅၁၆၅)ဧက လုပ်ကွက်မှ ထုတ်ယူ နိုင်ပါကြောင်း၊

(ဂဂ) ဂေါ်ဒန်ကျောက် တန်ချိန် (၁,၂၄၈.၄၀)တန်အား သီပေါမြို့မှ ဝယ်ယူ သုံးစွဲ နိုင်ပါကြောင်း၊

(ဃဃ) သံကျောက် တန်ချိန် (၄,၈၇၃.၇၀)တန်အား မန္တလေးတိုင်း ဒေသကြီး၊ ပြင်ဦးလွင်မြို့နယ်၊ အင်ယားကျေးရွာအုပ်စု ဧရိယာ(၁၈၀)ဧက လုပ်ကွက်မှ ထုတ်ယူနိုင်ပါကြောင်း၊

(ငင) မြေစေး တန်ချိန် (၅၈,၅၀၅.၄၀)တန်အား နွားလည်ကောက်တောင် အနီး ဝန်းကျင်မှ ရယူသုံးစွဲနိုင်ပါကြောင်း၊

၃။ လုပ်ငန်း အဆိုပြုချက်ကို **(နောက်ဆက်တွဲ - င)**ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီး မြှုပ်နှံမှု ပမာဏမှာ **Euro (၂၅.၆၀)သန်း အပါအဝင် ကျပ် (၂၈၃၄၀.၀၀) သန်း** ဖြစ်ပါသည်။ ရင်းနှီး မြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| (က) | ငွေသား | ကျပ် | ၁၅၀၀.၀၀ သန်း | |
| (ခ) | စက်ပစ္စည်းကိရိယာများ | ကျပ် | ၁၇၈၀၀.၀၀ သန်း | (Euro ၁၇.၈ သန်း ) |
| (ဂ) | စက်ရုံ အဆောက်အဦ | ကျပ် | ၆၇၄၀.၀၀ သန်း | (Euro ၆.၇၄ သန်း ) |
| | - မြေတန်ဖိုး | ကျပ် | ၁.၀၀ သန်း | |
| | - လမ်းတန်ဖိုး | ကျပ် | ၈၅၀.၀၀ သန်း | |
| | - လျှပ်စစ်လိုင်းတန်ဖိုး | ကျပ် | ၁၆၆.၀၀ သန်း | |
| (ဃ) | ရုံးသုံးပရိဘောဂတန်ဖိုး | ကျပ် | ၃.၀၀ သန်း | |
| (င) | ကုန်ကြမ်းပစ္စည်းတန်ဖိုး | ကျပ် | ၂၂၀.၀၀ သန်း | |
| (စ) | ကျွမ်းကျင်မှုနည်းပညာ ရပ်တန်ဖိုး | ကျပ် | ၁၀၆၀.၀၀ သန်း | (Euro ၁.၀၆ သန်း ) |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ်** | **၂၈၃၄၀.၀၀ သန်း** | **(US$ ၂၅.၆၀သန်း အပါအဝင်)** |

၄။ Myanma Economic Holdings Ltd. နှင့် China Mianyang Hi-Wish Trading Co., Ltd. တို့ စက်ပစ္စည်းကိရိယာများ ဝယ်ယူမှု၊ စက်ရုံအဆောက်အဦများဆောက်လုပ်မှု၊ နည်းပညာရပ် ပိုင်းဆိုင်ရာတို့အပေါ် လုပ်ငန်းသဘောတူ ချုပ်ဆိုထားသည့် စာချုပ်တင်ပြထားပါသည်။

၅။ Myanma Economic Holdings Ltd. သည် China Mianyang Hi-Wish Trading Co., Ltd. ထံမှ Turn Key စနစ်ဖြင့် Euro(၁၀)သန်း ချေးယူမည်ဖြစ်ရာ ချေးငွေ ပြန်လည် ပေးဆပ်ရာတွင် (၁) Euroလျှင် တရုတ်ယွမ်(၉.၃)နှုန်းဖြင့် စုစုပေါင်း တရုတ်ယွမ် (၉၃,၀၀၀,၀၀၀) ပေးချေရမည် ဖြစ်ပါကြောင်း၊ တစ်နှစ်လျှင် အတိုးနှုန်း ၂ % ဖြင့် (၄)နှစ်အတွင်း (၁၆) ကြိမ် ခွဲ၍ အတိုး၊ အရင်း စုစုပေါင်း တရုတ်ယွမ် (၉၈,၃၄၇,၅၀၀)ပေးချေရမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၆။ ကုမ္ပဏီမှ ဓါတ်အားခွဲရုံနှင့် ဓါတ်အားလိုင်းများအား ၃၃ ကေဗွီသီးခြားဓါတ်အားလိုင်း၊ ၃၃/ ၁၀.၅ ကေဗွီ (၁)လုံး၊ ၃၃/၀.၄ ကေဗွီ (၅၀)ကေဗွီအေ (၁)လုံး နှင့် kVar Capacitor Bank(၂) လုံးအား လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် တည်ဆောက်၍ ကိုယ်ပိုင် လျှပ်စစ်ဓါတ်အား ထုတ်ယူ သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ဘိလပ်မြေများကို TDP (Dry)Add On နည်းဖြင့် ထုတ်လုပ်မည်ဖြစ်ပြီး ပြည်တွင်းတွင် (၁၀၀%) ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(၅)နှစ်မြောက်တွင် တန်(၃၃၉,၈၄၀) ထုတ်လုပ်မည်ဖြစ်ပြီး တစ်တန် ရောင်းဈေးနှုန်းမှာ (၇၀,၀၀၀)ကျပ် ဖြစ်ပါသည်။

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေ မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ်/သန်း |
|---|---|---|
| (က) | ဝင်ငွေ | ၂၃,၇၈၈.၀၀ |
| (ခ) | အသုံးစရိတ် | ၁၈၃၄၅.၀၀ |
| (ဂ) | အသားတင်အမြတ် | ၅၄၄၃.၀၀ |

၉။ နိုင်ငံတော်မှ ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ် လုပ်ငန်းခွန် ကျပ် (၁၁၈၉.၀၀) သန်း ၊ ဝင်ငွေခွန် ကျပ် (၁၈၁၄.၀၀) သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ် နှင့် (၂)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ (၂၃.၈၉)ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၀။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၅၅၀)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ဝန်ထမ်း သက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် ဝန်ထမ်းများ သတ်မှတ်လစာနှုန်း ပြည့်ဝ စွာ ရရှိရေး ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ သာရေးနာရေး အကျိုးခံစားခွင့်ပြုမည် ဖြစ်ပါကြောင်း၊ ငွေချေးငှားခြင်း၊ ဝတ်စုံထုတ်ပေးခြင်း၊ ပျော်ပွဲရွှင်ပွဲကျင်းပပေးခြင်း၊ ရက်မပျက် ဆုပေးမှုစီစဉ်ပေးခြင်း၊ စားသောက်ရေး စီစဉ်ပေးခြင်း၊ နေထိုင်မှု နှင့် သက်သာချောင်ချိရေး ဆောင်ရွက်ပေးခြင်း၊ ပညာရေး ပိုင်းဆိုင်ရာ ဖွင့်လှစ်ပေးခြင်းတို့ ဆောင်ရွက်ပေးမည် ဖြစ်ပါကြောင်း၊ အလုပ်သမားများကို ဥပဒေနှင့်အညီ လုပ်ကိုင် ဆောင်ရွက်စေပြီး တည်ဆဲ ဥပဒေများ လိုက်နာစေရန် ဆောင်ရွက် ထားမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၁။ ကုမ္ပဏီမှ ထုတ်လုပ်မည့် ဘိလပ်မြေ၏ အမှတ်တံဆိပ်အား ဆင်မင်း အမှတ်တံဆိပ်ဖြင့် အသုံးပြု ထုတ်လုပ်မည်ဖြစ်ကြောင်းနှင့် စာချုပ်စာတမ်း မှတ်ပုံတင်ရုံး၌ မှတ်ပုံတင် ထားရှိမည် ဖြစ် ကြောင်း ဝန်ခံကတိပြု တင်ပြထားပါသည်။

၁၂။ ငွေကြေး အထောက်အထားအဖြစ် မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက် အပါအဝင်(၉)ဦး အမည်ဖြင့် မြဝတီဘဏ် လီမိတက်ရှိ (၂၈-၂-၂၀၁၃)နေ့ ရက်စွဲဖြင့် ငွေလက်ကျန် ကျပ်(၇၃၄.၃၂) သန်း တင်ပြထားရာ သုံးစွဲမည့် ကျပ်ငွေ (၂၇၄၀.၀၀)သန်း ၏ ၂၇ % ရှိကြောင်း စိစစ်ရပါသည်။

နိုင်ငံခြားငွေ အထောက်အထားအဖြစ် Myanma Economic Holdings Ltd. အမည်ဖြင့် MICB ဘဏ်တွင် (၃၀-၁-၂၀၁၃)နေ့ရှိ US$ (၅.၃၁)သန်း၊ (၁၁-၁-၂၀၁၃)နေ့ရှိ Euro ငွေလက်ကျန် (၁၄.၄၂) သန်း၊ MFTB ဘဏ်တွင် (၂၂-၂-၂၀၁၃)နေ့ရှိ US$ (၃.၇၉)သန်း၊ (၂၂-၂-၂၀၁၃)နေ့ရှိ Euro ငွေလက် ကျန် (၁.၆၇) သန်း တင်ပြထားပါသည်။ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများ တန်ဘိုး Euro(၁၇.၈၀)သန်း တင်ပြထားရာ သုံးစွဲရန် ငွေ၏ ၉၀% တင်ပြထားကြောင်း စိစစ်ရပါသည်။

၁၃။ ယင်းလုပ်ငန်းသည် မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ ပြုလုပ် ဆောင်ရွက်ထားမည် ဖြစ်ပါကြောင်း၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ မီးဘေး အန္တရာယ် မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၅။ **စိစစ်တင်ပြချက်။** Myanma Economic Holding Ltd. မှ ပဲခူးတိုင်းဒေသကြီး၊ အင်းတကော် စက်မှုနယ်မြေတွင် မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် နှင့် မန္တလေးတိုင်း ဒေသကြီး၊ ကျောက်ဆည်မြို့နယ်တွင် တစ်ရက်လျှင် တန်(၁၂၀၀)ကျ TPD(Dry) ဆင်မင်း(၃) ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် အဆိုပြုချက် (၂)ခုတင်ပြထားရာ ငွေကြေးအထောက်အထားအား Bank Account တစ်ခုတည်းသာ တင်ပြထားကြောင်း စိစစ်တွေ့ရှိရပါသည်။

၁၆။ သို့ဖြစ်ပါ၍ Myanma Economic Holdings Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးရှိ မြေ (၂၅၂.၃၇)ဧက အနက် (၂၂.၂၃)ဧကတွင် တစ်ရက်လျှင် ဘိလပ်မြေ တန်(၁၂၀၀)ကျ TPD (Dry) ဆင်မင်း(၃) ဘိလပ်မြေစက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း အပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ
ရုံးလက်ခံ

နောက်ဆက်တွဲ(က)



M-261
5.3.13

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**တိုင်းဒေသကြီးအစိုးရအဖွဲ့**

**မန္တလေးတိုင်းဒေသကြီး**

စာအမှတ်၊ ၂ /၃ -၆ /၁၂ ဦး ၆ ( ၈၅၀ )

ရက် စွဲ ၊ ၂၀၁၃ ခုနှစ် ၊ မတ်လ ၁ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

အကြောင်းအရာ။ **တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃.၁.၂၀၁၃)ရက်စွဲပါစာအမှတ်၊ ရက-၆(က) /မ-၁၂၉၉/၂၀၁၃ (၁၂၉၉ - ဃ)

၁။ မြန်မာ့စီးပွားရေးဦးပိုင် လီမီတက်မှ မန္တလေးတိုင်းဒေသကြီး ၊ ကျောက်ဆည်ခရိုင် ၊ ကျောက်ဆည်မြို့နယ် ၊ ရဲဘော်ကြီး ၊ ဖျောက်ဆိပ်ပင်ကျေးရွာအနီးရှိ မြေ (၂၅၂.၃၇) ဧကတွင် တစ်နေ့လျှင် ဘိလပ်မြေတန် (၁၂၀၀)ကျ TDP (Dry) Add On ဆင်မင်း (၃) ဘိလပ်မြေစက်ရုံတည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်မေတ္တာရပ်ခံလာပါသည်။

၂။ ဖော်ပြပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းနှင့် ပတ်သက်ပြီး မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားကို အောက်ပါအတိုင်း ထောက်ခံပြန်ကြားအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှု မရှိပါ၊

( ခ ) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးကိုက်ညီမှု ရှိပါသည်၊

( ဂ ) ဖော်ပြပါမြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ပါသည်၊

(ဃ) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အကြံပြုရန်မရှိပါ။

( ရဲမြင့် )

**ဝန်ကြီးချုပ်**

**မိတ္တူကို**

မြန်မာ့စီးပွားရေးဦးပိုင်လီမီတက်၊ အမှတ်(၁၈၉/၁၉၁)၊ မဟာဗန္ဓုလလမ်း၊

ဗိုလ်တစ်ထောင် မြို့နယ် ၊ ရန်ကုန်မြို့

လက်ခံစာတွဲ/မျှောစာတွဲ။

နောက်ဆက်တွဲ (ခ)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

M-254
4-3-13

စာအမှတ် ၂/၂၂၀(ခ)(၆)/( ၁၃၉၅ / ၂၀၁၃)
ရက်စွဲ ၂၀၁၃ခုနှစ်၊ဖေဖော်ဝါရီလ ၂၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၂၃-၁-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ရက-မ(က)/မ-၁၂၉၉/၂၀၁၂(၁၂၉၉-ဆ)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာ့စီးပွားရေးဦးပိုင်လီမီတက်သို့ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ပင်ကျေးရွာအနီးရှိ မြေ (၂၅၂.၃၇) ဧကတွင် တစ်နေ့လျှင် တန် (၁၂၀၀) ကျ TDP (Dry) Add On ဆင်မင်း (၃) ဘိလပ်မြေစက်ရုံ တည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာအားစီစစ်ရာတွင် ဘိလပ်မြေ ကုန်ကြမ်းပစ္စည်းများဖြစ်သော ထုံးကျောက်၊ ဘောက်ဆိုက် (သံကျောက်)၊ ကျောက်မီးသွေးထုတ်လုပ်ခွင့်နှင့် ဂေါ်ဒန်ကျောက်ဝယ်ယူခွင့်ကို သတ္တုတွင်းဝန်ကြီးဌာန၏ ခွင့်ပြုချက်ရရှိပြီးဖြစ်ကြောင်း၊ ဘိလပ်မြေထုတ်လုပ်မှုနည်းစဉ်နှင့် အဆိုပြုလုပ်ငန်းစီမံကိန်းမှ သဘာဝပတ်ဝန်းကျင်ထိခိုက်မှု မရှိစေရန် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များကို ယေဘုယျအားဖြင့် ဖော်ပြထားပြီး အဆိုပြုစီမံကိန်းလုပ်ငန်း စတင်တည်ထောင် ဆောင်ရွက်သည့်အချိန်မှ လုပ်ငန်းအပြီးသတ်သည့်အချိန်အထိ ပတ်ဝန်းကျင်နှင့်လူမှုရေးအပေါ် ထိခိုက်မှုမရှိစေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ဆောင်ရွက်ထားရှိမည့်အစီအစဉ်များ၊ စက်ရုံအတွင်း စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှု၊ လုပ်ငန်းခွင် ပတ်ဝန်းကျင်လုပ်ငန်း ကဏ္ဍနှင့်ပတ်သက်ပြီး လုပ်သားများပေါ်၌ သက်ရောက်နိုင်သော အသံ၊ ဖုန်မှုန့်၊ ဓာတ်ငွေ့များကို ဆန်းစစ်ခြင်း၊ အလုပ်သမားများ၏ ကျန်းမာရေးအားဆန်းစစ်ခြင်း၊ အလုပ်သမား များအတွက်ကျန်းမာရေးအသိပညာပေးခြင်း၊ ကြိုတင်ကာကွယ်ခြင်းနှင့် လုပ်ငန်းခွင် ကျန်းမာရေး

စောင့်ရှောက်ခြင်းဆိုင်ရာ စီမံချက်များနှင့် စက်ရုံပတ်ဝန်းကျင် ညစ်ညမ်းမှု လျော့နည်းစေရန် ဆောင်ရွက်မည့်အစီအမံများ ထည့်သွင်းရေးဆွဲထားခြင်း မရှိကြောင်း စီစစ် တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ရာ ကုန်ကြမ်းထုတ်လုပ်ခြင်းနှင့် စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာမည့် အမှုန်အမွှား၊ အခိုးအငွေ့များသည် လူ၊ အပင်နှင့် သတ္တဝါတို့၏ ကျန်းမာရေးနှင့် ပတ်ဝန်းကျင် ထိခိုက်မှုများ ဖြစ်စေနိုင်ခြင်း၊ လုပ်ငန်းသုံးစက်ယန္တယာဉ်များ၏ ဆူညံသံကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊ ကုန်ကြမ်းထုံးကျောက်တူးဖော်ရာမှထွက်ရှိသည့် လေးသောသတ္တုများ၊ အညစ်အကြေး သတ္တုရိုင်းများကြောင့် မြေဆီလွှာယိုယွင်းပြုန်းတီးမှု ဖြစ်ပေါ်နိုင်ခြင်း၊ ကုန်ကြမ်း ထုတ်ယူသုံးစွဲခြင်းကြောင့် သယံဇာတပြုန်းတီးမှုဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ ဘိလပ်မြေစက်ရုံတည်ဆောက်မည့်မြေနေရာသည် သစ်တောဦးစီးဌာန၏ ကြိုးဝိုင်း/ကြိုးပြင်ကာကွယ်တောများနှင့် လွတ်ကင်းသော်လည်း ဘိလပ်မြေထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ဖော်ပြပါအချက်များကို ထည့်သွင်းဆောင်ရွက်သွားရန် လိုအပ်ပါသည်-

(က) ဘိလပ်မြေစက်ရုံအတွက် အဓိကကျသော စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်ရည်နှင့် ပတ်ဝန်းကျင်အရည်အသွေးစံချိန်စံနှုန်းတိုင်းတာခြင်းတို့ကိုစက်မှုဝန်ကြီးဌာနမှ သတ်မှတ် ထားသော စံနှုန်းများအရ ဆောင်ရွက်သွားရန်၊

(ခ) ဘိလပ်မြေစက်ရုံတည်ဆောက်မည့်နေရာ နှင့် အဓိကကုန်ကြမ်း ထုံးကျောက် ထုတ်လုပ်မည့် ဧရိယာများ၏ မြေပြင်နှင့်သွင်ပြင်လက္ခဏာ၊ မြေပြင်တည်ငြိမ်မှု အနေအထား၊ မြေအသုံးချမှု၊ မြေပြိုမှုများ ရှိနိုင်-မရှိနိုင် တို့ကို ဆန်းစစ်ရန်၊

(ဂ) ထုံးကျောက်တူးဖော်သည့်အချိန်တွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရန်၊ တောတောင်နှင့်သစ်တောဧရိယာများ မပျက်စီးစေရန် နှင့် မူလအခြေအနေအတိုင်း ရောက်ရှိနိုင်ရေး ပြန်လည်ဆောင်ရွက်ရန်၊

(ဃ) ဘိလပ်မြေထုတ်လုပ်ရာတွင် အဓိကကုန်ကြမ်း ထုံးကျောက် နှင့် လောင်စာကျောက်မီးသွေးကို အသုံးပြုရာမှ ထွက်ပေါ်လာမည့် မီးခိုးတွင်ပါဝင်သော ဓာတုဓာတ်ငွေ့များကြောင့် လေထုညစ်ညမ်းမှု လျော့နည်းသက်သာစေမည့် ခေတ်မီ နည်းပညာများ၊ စက်ပစ္စည်းကရိယာများ အသုံးပြုရန်၊

(င) မတော်တဆ မီးလောင်ကျွမ်းမှုဖြစ်ပေါ်ပါက အနီးပတ်ဝန်းကျင်ရှိ သစ်တောများသို့ မီးကူးစက်လောင်ကျွမ်းမှုမရှိစေရန် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး အစီအမံများ ထည့်သွင်းဆောင်ရွက်ထားရှိရန်၊

(စ) ဘိလပ်မြေထုတ်လုပ်ရာတွင် အသုံးပြုမည့်ဓာတုပစ္စည်းများ၊ ဘိလပ်မြေထုတ်လုပ်မှု လုပ်ငန်းစဉ်အတွင်း ပေါ်ထွက်လာမည့်ဖုန်နှင့် အမှုန်အမွှားများတို့ကို ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရေးအတွက် ထိန်းချုပ်ဆောင်ရွက်သွားမည့် နည်းလမ်းများ ပြည့်စုံစွာ ဖော်ပြရန်၊

(ဆ) စီမံကိန်းဧရိယာအနီးရှိ ပြည်သူတို့၏ ကျန်းမာရေးအား ထိခိုက်မှု ရှိနိုင်သဖြင့် စီမံကိန်းလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းဆောင်ရွက်မှုဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်း၊ အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

၅။ သို့ဖြစ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာ့စီးပွားရေးဦးပိုင်လီမီတက်မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ပင်ကျေးရွာအနီးရှိ မြေ (၂၅၂.၃၇)ဧကတွင် တစ်နေ့လျှင် တန်(၁၂၀၀)ကျ TDP (Dry) Add On ဆင်မင်း (၃) ဘိလပ်မြေစက်ရုံတည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့် ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) ထုံးကျောက်တူးဖော်ခြင်းနှင့် ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် သဘာဝပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရေး၊ ဒေသခံပြည်သူများ ဘေးအန္တရာယ်ကျရောက်မှု မရှိစေရေးနှင့် နစ်နာမှုမရှိစေရေးအတွက် လုပ်ငန်းအကောင်အထည်မဖော်မီ ပတ်ဝန်းကျင်နှင့် လူမှုရေးအပေါ် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental and Social Impact Assessment - ESIA) လုပ်ငန်းများ ဆောင်ရွက်ပြီးမှသာ လုပ်ငန်းဆောင်ရွက်ခွင့်ကို စိစစ်ခွင့်ပြုရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေးအပေါ် ထိခိုက်မှုဆန်းစစ်ခြင်း (ESIA) ဆောင်ရွက်ရန်နှင့် ESIA အစီရင်ခံစာ တင်ပြရန်၊

(ခ) အထက်ပါဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းလမ်းများ၊ စောင့်ကြည့် လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်

သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် EMP အစီအစဉ်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေတို့နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) စီမံကိန်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ဒေသခံပြည်သူများ သိရှိနားလည်စေရန် ရှင်းလင်းဆွေးနွေးပြီး သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ဒေသခံလူထု၏ အကြံပြု သဘောထားများ ရယူဆောင်ရွက်ရန်နှင့် ၎င်းတို့၏ လူမှုဖွံ့ဖြိုးရေး အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုး ဝင်း (ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

နောက်ဆက်တွဲ (ဂ)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

m.267
5.3.13

စာအမှတ်၊ ၃၄-စမ(၂) ၂၀၁၂-၂၀၁၃(၄၀၈၄)
ရက် စွဲ ၊ ၂၀၁၃ ခုနှစ် ၊ မတ် လ ၅ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃.၁.၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၂၉၉/၂၀၁၃(၁၂၉၉-စ)

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ပင်ကျေးရွာအနီးရှိ မြေ(၂၅၂.၃၇)ဧကတွင် တစ်နေ့တန်(၁,၂၀၀)ကျ TDP (Dry) Add On ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ တည်ဆောက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းနှင့်စပ်လျဉ်း၍ လုပ်ငန်းကျွမ်းကျင်မှု နည်းပညာရပ်ပိုင်းဆိုင်ရာ အချက်များအား အထူးပြုပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) တစ်နေ့တန်(၁,၂၀၀)ကျ TPD (Dry) စနစ်ဖြင့် ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည် ၊

(ခ) အဓိကကုန်ကြမ်းဖြစ်သော ထုံးကျောက်ကို မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ နွားလည်ကောက်တောင်ဒေသရှိ ထုံးကျောက်သိုက်(၂၁၆)ဧကနှင့် ကျောက်ပုခက်တောင်ဒေသရှိ ထုံးကျောက်သိုက်(၁၄၁.၂၅)ဧကတို့မှ ထုတ်ယူသုံးစွဲမည်ဖြစ်ပါသည်၊ သုံးစွဲနိုင်မှုကာလမှာ နှစ်(၁၂၀)ခန့်ဖြစ်ပါသည်။

(ဂ) အခြားကုန်ကြမ်းဖြစ်သည့် ကျောက်မီးသွေးကို စစ်ကိုင်းတိုင်းဒေသကြီး၊ ကလေးဝမြို့နယ်၊ ကျောက်အုံချောင်းဒေသရှိ ကျောက်မီးသွေးလုပ်ကွက် (၅,၁၆၅.၂၅)ဧကမှ ထုတ်ယူသုံးစွဲမည်ဖြစ်ပြီး၊ ဂေါဒန်ကျောက်ကို သီပေါမြို့နယ်ရှိ သတ္တု(၃)မိုင်းမှ ဝယ်ယူသုံးစွဲမည်ဖြစ်ပါသည်၊

(ဃ) အဆိုပါဘိလပ်မြေစက်ရုံကို Computer Control စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး တစ်နေ့တန် ၁၂၀၀ Add on လုပ်ငန်းအတွက် Impact Hammer Crusher, Jaw Crusher ကုန်ကြမ်းကြိတ်စက် Shaft Raw Mill, Coal Mill တို့ပါဝင်သော်လည်း စက်စွမ်းအားများ အသေးစိတ်ဖော်ပြထားခြင်းမရှိပါ၊

(င) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိပါသည်။

(စ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မှုတမှုရှိပါသည်။

(ဆ) ထုတ်လုပ်မှုနှုန်းများ တင်ပြထားရှိမှုနှင့် ဈေးနှုန်းတင်ပြထားမှုများ ဆီလျော်မှုရှိပါသည်။

၃။ သို့ပါ၍ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တစ်နေ့တန်(၁,၂၀၀)ကျ TPD(Dry)စနစ်ဖြင့် ဆင်မင်းအမှတ်(၃)ဘိလပ်မြေစက်ရုံတည်ဆောက်ရာတွင် ပတ်ဝန်းကျင်လေထုညစ်ညမ်းမှုမဖြစ်ပေါ်စေရေးသတိပြုဆောင်ရွက်ရန်နှင့် သက်ဆိုင်ရာ ဒေသဌာနအဖွဲ့အစည်းများနှင့် ပတ်ဝန်းကျင်တွင်နေထိုင်သူများ၏ သဘောထားများ ရယူဆောင်ရွက်သင့်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း



နောက်ဆက်တွဲ (ဃ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

**ဝန် ကြီး ရုံး**

နေပြည်တော်

စာအမှတ်၊ ၃၀ ခွဲ (၂) ၁၃ ( ၀၉၉၉ )

ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဖေဖော်ဝါရီလ ၄ ရက်

M-190 7/2

M-170 5/2

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ကျေးရွာအနီးတွင် ဘိလပ်မြေစက်ရုံတည်ဆောက်၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁၁၆ ၅/၆/၂

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃.၁.၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက-မ(က) / မ-၁၂၉၉ / ၂၀၁၃ (၁၂၉၉-င)

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ကျေးရွာအနီးတွင် တစ်ရက်လျှင် တန်(၁၂၀၀)ကျ ဘိလပ်မြေစက်ရုံတည်ဆောက်၍ လုပ်ငန်းဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြသည့်အဆိုပြုချက်ပါ ဘိလပ်မြေစက်ရုံတည်ဆောက်ခြင်းလုပ်ငန်းတွင် နှစ်စဉ်အသုံးပြုမည့် ကုန်ကြမ်း (ကျောက်မီးသွေး၊ ထုံးကျောက်၊ ဂေါဒန်ကျောက်၊ သံကျောက်နှင့် မြေစေး)စသည့် လိုအပ်ချက်နှင့်စပ်လျဉ်း၍ ဤဝန်ကြီးဌာန၏ သဘောထားအကြံပြုချက် ပြန်ကြားပေးပါရန် ကော်မရှင်မှ ရည်ညွှန်းစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တည်ဆောက်မည့် တစ်ရက်လျှင် တန်(၁၂၀၀)ကျ ဘိလပ်မြေစက်ရုံအတွက် တစ်နှစ်ကုန်ကြမ်း လိုအပ်ချက် လျာထားစာရင်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ထုံးကျောက် | (၅၄၃,၄၇၇ ) တန် |
| (ခ) | ကျောက်မီးသွေး | ( ၄၂,၃၄၈ ) တန် |
| (ဂ) | ဂေါဒန်ကျောက် | ( ၁,၂၄၈.၄၀) တန် |
| (ဃ) | သံကျောက် | ( ၄,၈၇၃.၇၀) တန် |
| (င) | မြေစေး | ( ၅၈,၅၀၅.၄၀) တန် |

၃။ အပိုဒ်(၂)ပါ ကုန်ကြမ်း လိုအပ်ချက်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) ထုံးကျောက်တစ်နှစ်လိုအပ်ချက် လျာထားတန်ချိန် (၅၄၃,၄၇၇)တန်အား မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊နွားလည်ကောက်တောင်၊ မြောက်ဘက်ခြမ်း လုပ်ကွက်ဧရိယာ(၂၁၆)ဧက၊ ကျောက်ဆည်မြို့နယ်၊ ရဲဘော်ကြီးကျေးရွာအုပ်စု၊ ကျောက်ပုခက်တောင် လုပ်ကွက်ဧရိယာ (၁၄၀.၂၅)ဧက လုပ်ကွက်(၂)ကွက်တို့မှ ထုတ်ယူနိုင်ပါသည်။

D:\User GEST\Join Venture\MIC\MIC(UMEH).doc

(ခ) ကျောက်မီးသွေးတန်ချိန် တစ်နှစ်လိုအပ်ချက် (၄၂,၃၄၈)တန်အား ကလေးဝမြို့နယ်၊ ကျောက်အုံချောင်းဒေသ ဧရိယာ(၅၁၆၅)ဧက လုပ်ကွက်မှ ထုတ်ယူနိုင်ပါသည်။

(ဂ) ဂေါဒန်ကျောက်တန်ချိန် (၁,၂၄၈.၄၀)တန်အား သီပေါမြို့မှ ဝယ်ယူသုံးစွဲနိုင်ပါသည်။

(ဃ) သံကျောက်တန်ချိန်(၄,၈၇၃.၇၀)တန်အား မန္တလေးတိုင်းဒေသကြီး၊ ပြင်ဦးလွင်မြို့နယ်၊ အင်ယားကျေးရွာအုပ်စု ဧရိယာ(၁၈၀)ဧက လုပ်ကွက်မှ ထုတ်ယူနိုင်ပါသည်။

(င) မြေစေးတန်ချိန်(၅၈,၅၀၅.၄၀)တန်အား နွားလည်ကောက်တောင် အနီးဝန်းကျင်မှ ရယူသုံးစွဲနိုင်ပါသည်။

4/2/13

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
သတ္တုတွင်းဝန်ကြီးဌာန
(မင်းမင်းဦး၊ ရုံးအဖွဲ့မှူး)




## ဆင်မင်းဘိလပ်မြေတံဆိပ်အမည်နှင့်ရုပ်ပုံအမှတ်အသားကို

## တစ်ဦးတည်းမူပိုင်အဖြစ် မှတ်ပုံတင်သွင်းခြင်း

၂၀၁၃ခုနှစ်၊ ဇွန်လ ( ၄ )ရက်နေ့တွင် ရန်ကုန်မြို့ စာချုပ်စာတမ်းမှတ်ပုံတင်ရုံး၌ အောက်အမည်ပါသူမှ အောက်တွင်ဖော်ပြပါရှိသော "ဆင်မင်းဘိလပ်မြေတံဆိပ်" အမည်နှင့် ရုပ်ပုံအမှတ်အသားကို ကုမ္ပဏီမူပိုင်အဖြစ် ပြုလုပ်သုံးစွဲရန်အတွက် မှတ်ပုံတင်သွင်းကြောငြာသည်မှာ-

| | |
|---|---|
| မှတ်ပုံတင်သွင်းကြေငြာသူ။ | မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် |
| | ကုမ္ပဏီမှတ်ပုံတင်အမှတ်-၂၈(~~၂၀၁၂-၂၀၁၃~~) |
| | အမှတ်-၁၈၉/၁၉၁၊ မဟာဗန္ဓုလလမ်း၊ |
| | ဗိုလ်တစ်ထောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | (၎င်းကုမ္ပဏီကိုယ်စား (၁၄-၅-၂၀၁၃)ရက်စွဲပါ အစည်းအဝေးဆုံးဖြတ်ချက်အရ ဦးကျော်လင်းဦး(၁၃/လရန(နိုင်)၀၁၃၇၆၀)က လက်မှတ်ရေးထိုးပါသည်) |

အောက်တွင် ကပ်နှိပ်ဖော်ပြထားသော ဆင်မင်းဘိလပ်မြေတံဆိပ်အမည် အမှတ်အသားမှာ-

SIN MINN

BEST QUALITY

CEMENT

ဖြစ်ပါသည်။






အပေါ်ဘက်တို့တွင်ဆင်ရုပ်ပါစက်ဝိုင်းငယ်နှင့် "SIN MINN BESTQUALITY CEMENT"ဟူသော စာတမ်းများကို ရေးသားထား၍လည်းကောင်း၊ အောက်ဘက်တွင် PRODUCT OF MYANMAR ၊ NET WEIGHT 50 kg ဟူသော စာတမ်းကိုလည်းကောင်း ရေးသားထားပါသည်၊ ယင်းတံဆိပ်အမည်နှင့်ရုပ်ပုံအမှတ်အသားမှာ ယနေ့ထိတိုင် မည်သူမျှသုံးစွဲနေသည်ကို မတွေ့ရသေးပါ၊ မိမိတို့ ကုမ္ပဏီမှကိုယ်ပိုင်ဉာဏ်ဖြင့် တီထွင်အသုံးပြုထားသော တံဆိပ်အမှတ်အသားဖြစ်ပါသည်။

ယင်းတံဆိပ်အမည်နှင့် ရုပ်ပုံအမှတ်အသားသည် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၏ မူပိုင်ဖြစ်ပြီး ကျောက်ဆည်ဆင်မင်း(၃)ဘိလပ်မြေစက်ရုံမှ ထုတ်လုပ်သည့် ဘိလပ်မြေထုတ်ကုန်၏ ကုန်အမှတ်တံဆိပ်၊ အမည်နှင့် အိတ်ခွံဒီဇိုင်းအမှတ်အသားများဖြစ်ပါသည်၊ ယင်းဆင်မင်း ဘိလပ်မြေတံဆိပ်ကို ဘိလပ်မြေများ ထည့်သွင်းအသုံးပြုသည့် စက္ကူအိတ်၊ ပလပ်စတစ် အိတ်၊ ပါဆယ်ထုပ်၊ အစရှိသည်တို့၏ အိတ်ခွံများပေါ်တွင်လည်းကောင်း၊ ယင်းဆင်မင်း ဘိလပ်မြေတံဆိပ်အမှတ်အသားကို အရွယ်အစားအမျိုးမျိုးပြုလုပ်ပြီး ဘိလပ်မြေထည့်သွင်းထားသည့် ဘိလပ်မြေအိတ်ခွံများအပေါ်တွင်လည်းကောင်း ဖိနှိပ်၍၊ ကပ်နှိပ်၍၊ ရိုက်နှိပ်၍ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတစ်ဝှမ်းလုံးနှင့် ပြည်ပနိုင်ငံများသို့ လက်လီလက်ကား ဖြန့်ဖြူးရောင်းချမည်ဖြစ်ပါသည်။






မိမိတို့ကုမ္ပဏီလုပ်ငန်း အကျိုးစီးပွားထိခိုက်နစ်နာဆုံးရှုံးကုန်ကျသမျှသော အရပ်ရပ် စရိတ်ငွေကြေးများအတွက် လျော်ကြေးငွေများ တောင်းခံသွားနိုင်ရန် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းရှိ မည်သည့်တရားရုံးတွင်မဆို တရားမကြောင်းအရဖြစ်စေ၊ ရာဇဝတ်ကြောင်းအရဖြစ်စေ၊ တရားစွဲဆိုမည့်အပြင် ယင်းသို့တုပပြုလုပ်သည့် တံဆိပ်အမည်အမှတ်အသားများကို ပယ်ဖျက်ပေးသည်အထိ ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း အောက်ပါ အသိသက်သေများရှေ့တွင် လက်မှတ်ရေးထိုး၍ ဖော်ပြပါတံဆိပ်အမည် အမှတ်အသားကို တစ်ဦးတည်း မူပိုင်အဖြစ် မှတ်ပုံတင်သွင်းပါသည်။

အသိသက်သေများ

(ဦးကျော်လင်းဦး)
၁၃/လရန(နိုင်)၀၁၃၇၆၀

(၁)

အမည် - ဦးမျိုးနိုင်ဦး(ဘ)ဦးဝင်းရွှေ
နိုင်ငံသား - ၈/မကန(နိုင်)၁၅၁၃၉၆

**Myanma Economic Holding Ltd**

မှ

ဆင်မင်း (၃) **1200 TPD (Dry)**

ဘိလပ်မြေစက်ရုံတည်ဆောက်ခြင်းစီမံကိန်း

အဆိုပြုချက်တင်ပြခြင်းနှင့်

ကင်းလွတ်သက်သာခွင့်များလျှောက်ထားခြင်း



**MYANMA ECONOMIC HOLDINGS LIMITED**
မြန်မာ့ စီးပွားရေးဦးပိုင် လီမိတက်

Tel . 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar

Reference No. ဦးပိုင်/ဆင်မင်း-၃/ထွေ (၁၂၈/၂၀၁၃)    Date ၂၀၁၃ ခုနှစ် ဇန်နဝါရီလ(၉)ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ ။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၏ဆင်မင်း(၃) 1200 TPD (Dry) ဘိလပ်မြေစက်ရုံ တည်ဆောက်ခြင်းစီမံကိန်း အဆိုပြုချက်တင်ပြခြင်းနှင့် ကင်းလွတ်သက်သာခွင့်များအတွက် လျှောက်ထားခြင်း။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁-၂-၂၀၁၃ရက်စွဲပါ၊ စာအမှတ်၊ ရက-၆(က) /မ-ထွေ /၂၀၁၃ (၁၅၅-၈)

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်က ရာနှုန်းပြည့်ထောက်မထားသော ပြည်ပသွင်းကုန်အစားထိုး ဆင်မင်း(၃)ဘိလပ်မြေစက်ရုံကို မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီး တည်ဆောက်လုပ်ကိုင်ရန်အတွက် လိုအပ်သလိုခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံ တင်ပြခြင်းဖြစ်ပါသည်။ ထိုစက်ရုံတည်ဆောက်ရန်အတွက် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၏ ဒါရိုက်တာအဖွဲ့က အတည်ပြုထားပြီး ဖြစ်ပါသည်။

၂။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်သည် ဤစက်ရုံ(၃)မတိုင်မီ ပြည်ပသွင်းကုန်အစားထိုး ဆင်မင်းဘိလပ်မြေစက်ရုံ(၁)နှင့်(၂)ကို တည်ဆောက်ခဲ့ပါသည်။ ထိုစဉ်က မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၏ အဆိုပြုလွှာကို ပြည်ထောင်စုမြန်မာ နိုင်ငံတော်ကုန်သွယ်ရေးမူဝါဒကောင်စီသို့ လမ်းညွှန်ချက်နှင့်အညီ

တိုက်ရိုက်တင်ပြရသဖြင့် ကုန်သွယ်ရေးမူဝါဒ ကောင်စီ၏ခွင့်ပြုချက်အရ ပစ္စည်းများကိုတင်သွင်းခွင့်နှင့် အခွန်ကင်းလွတ်ခွင့်ကိုပါ တပေါင်းတည်းရရှိခဲ့ ပါသည်။ (မိတ္တူပူးတွဲလျက်) – ပူးတွဲ(က)

၃။ လက်ရှိစီးပွားရေးလုပ်ငန်းများနှင့်စပ်လျဉ်း၍ ပြုပြင်ပြောင်းလဲရေးဖြစ်ပေါ်လာသည်နှင့်အညီ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်သည် ပြည်ပသွင်းကုန်အစားထိုးဆင်မင်းဘိလပ်မြေစက်ရုံ(၃)ကို တည်ဆောက်လုပ်ကိုင်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံတင်ပြရန် ဒါရိုက်တာအဖွဲ့က ဆုံးဖြတ်ခဲ့ပါသည်။ (ဆုံးဖြတ်ချက်မိတ္တူ ပူးတွဲလျက်) – ပူးတွဲ(ခ)

၄။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်နှင့်စပ်လျဉ်းသည့် ကုမ္ပဏီမှတ်ပုံတင်နံပါတ် (ပူးတွဲ–ဂ)၊ သင်းဖွဲ့စည်းမျဉ်း (ပူးတွဲ–ဃ)နှင့် သင်းဖွဲ့မှတ်တမ်းမိတ္တူများကို တင်ပြပါသည်။ ထိုသင်းဖွဲ့စည်းမျဉ်းအရ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၏ အစုရှင်များသည် စစ်မှုထမ်းဟောင်းများ၊ လက်ရှိတာဝန်ထမ်းဆောင်နေသောတပ်မတော်သားများ၊ တပ်ရင်း တပ်ဖွဲ့များ၊ တပ်ရင်း တပ်ဖွဲ့လက်အောက်ရှိ အဖွဲ့အစည်းများဖြစ်ကြပါသည်။ အဓိကရည်ရွယ်ချက်မှာ သက်ကြီးရွယ်အို စစ်မှုထမ်းဟောင်းများအတွက် စားဝတ်နေရေးအထောက်အကူဖြစ်ရန်နှင့် လက်ရှိတာဝန် ထမ်းဆောင်နေသော တပ်မတော်ဝန်ထမ်းများအတွက်မိသားစုပညာရေး၊ ကျန်းမာရေး၊ စားဝတ်နေရေးအတွက် ပံ့ပိုးကူညီရန်ဖြစ်ပါသည်။ ထို့ကြောင့်လုပ်ငန်းများမှရရှိသောအမြတ်ငွေကို ထိုပုဂ္ဂိုလ်များနှင့်အဖွဲ့အစည်းများ အတွက် ငွေကြေးပံ့ပိုးပေးရန်ဖြစ်ပါသည်။

၅။ ဆင်မင်း(၃)ကိုတည်ဆောက်ခြင်း၏ရည်ရွယ်ချက်မှာ မူလတည်ဆောက်ပြီးဖြစ်သော ဆင်မင်း(၁)နှင့် ဆင်မင်း(၂)တို့၏ ထုတ်လုပ်မှုကိုအားဖြည့်ရန်ဖြစ်ပါသည်။ မူလကအမှတ်(၁)စက်မှုဝန်ကြီးဌာန မြန်မာကြွေထည်မြေထည်လုပ်ငန်း၏ လမ်းညွှန်ချက်နှင့်အညီ တန်(၅၀၀)ဘိလပ်မြေစက်ရုံစီမံကိန်းအား Euro (၈.၆၃)သန်း CIF ဈေးနှုန်းဖြင့်တည်ဆောက်ရန်ဖြစ်သော်လည်း အကြောင်းအမျိုးမျိုးကြောင့် စာချုပ်တန်ဖိုး (၃၀%) တိုးသဖြင့်ရပ်ဆိုင်းထားခဲ့ MEHL အတွက်ဆောင်ရွက်ရန်အဆင်ပြေသည့် တစ်ရက်တန်(၁၂၀၀)ဆင်မင်းဘိလပ်မြေစက်ရုံအား CHINA MIANYANG HI-WISH TRADING LIMITED ဖြင့်စာချုပ်တန်ဖိုး (၂၅.၆)သန်း Euro ဖြင့် Turn Key စနစ်ဖြင့်လုပ်ကိုင်ရန် ဆောင်ရွက်ခဲ့ပါသည်။ ဆင်မင်း(၃)မှာမြေကို မန္တလေးတိုင်း၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ပင်ကျေးရွာရှိမြေ (၂၅၂.၃)ဧကကို မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၊ ဆင်မင်းဘိလပ်မြေစက်ရုံမြေအဖြစ် လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေးဥပဒေပုဒ်မ(၈၄)အရ ခွင့်ပြုချက်ရရှိပြီးဖြစ်ပါသည်။ (စာချုပ်ကိုပူးတွဲထားပါသည်။)

၆။ ထုတ်လုပ်ရာတွင်လိုအပ်သောပစ္စည်းများမှာ အဓိကအားဖြင့် Limestone, Clay, Bauxite နှင့် Gypsum တို့ဖြစ်ပါသည်။ ထုတ်လုပ်ရန်လိုအပ်သည့်အဓိကကုန်ကြမ်းဖြစ်သော Limestone, Clay, Bauxite နှင့်အပူပေးရန်အတွက်ကျောက်မီးသွေး Gypsum တို့ကို ပြည်တွင်း၌ရရှိမည်ဖြစ်ပါသည်။ သက်ဆိုင်ရာဝန်ကြီးဌာနများ၏ ခွင့်ပြုချက်များရရှိပြီးဖြစ်ပါသည်။

၇။ ထွက်ရှိသောဘိလပ်မြေများကို မြန်မာနိုင်ငံအတွင်းရှိဆောက်လုပ်ရေးလုပ်ငန်းများသို့ ဈေးနှုန်းချိုသာစွာဖြင့် ဖြန့်ဖြူးရောင်းချရန် ရည်ရွယ်ချက်ရှိပါသည်။ ထိုရည်ရွယ်ချက်နှင့်အညီ ကျွမ်းကျင်မှုဆိုင်ရာအကူအညီများကိုရယူပြီး ကျွမ်းကျင်သူများနှင့်တွက်ချက်ကြည့်ရာ ထုတ်လုပ်ရန်တွက်ချေ ကိုက်သောလုပ်ငန်းတစ်ခုဖြစ်ကြောင်း တွေ့ရှိရပါသည်။ စီမံကိန်းရေးဆွဲပြီး စီးပွားရေးတွက်ချေကိုက်မှုကို တွက်ချက်ကြည့်ရာ ထိုကိန်းဂဏန်းများအရ အရင်းကြေကာလမှာ (၄) နှစ်၊ (၄)လ ဖြစ်ပြီး Internal Rate of Return မှာ ၁၉.၂၀% ဖြစ်ပါသည်။ ဤစီမံကိန်းအရလိုအပ်သောဘိလပ်မြေများကို ထုတ်လုပ်ဖြည့်ဆည်းပေးနိုင်ပြီး အလုပ်သမား (၃၆၀)ဦး၊ ကြီးကြပ်ဝန်ထမ်း(၁၃၀)ဦး၊ စီမံခန့်ခွဲရေးဝန်ထမ်း (၆၀)ဦးအလုပ်အကိုင်ရရှိပြီး ဘိလပ်မြေထုတ်လုပ်မှုနည်းပညာကိုလည်း ရရှိကြမည် ဖြစ်ပါသည်။

၈။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်သည် စစ်မှုထမ်းဟောင်းများ၊ လက်ရှိတာဝန်ထမ်းဆောင်လျက်ရှိသော တပ်မတော်သားများ၊ တပ်ရင်း တပ်ဖွဲ့ရှိအဖွဲ့အစည်းများနှင့်ဖွဲ့စည်းထားသည်ဖြစ်၍ ဤစက်ရုံမှထွက်ရှိလာသော အကျိုးအမြတ်မှာလည်း နိုင်ငံတော်သို့ပေးဆောင်သောအခွန်အခများပေးပြီးနောက် ကျန်ရှိငွေကိုယင်းပုဂ္ဂိုလ်နှင့် အဖွဲ့အစည်းများအား ခွဲဝေပေးနေသည်ဖြစ်ရာ ထိုပုဂ္ဂိုလ်နှင့်အဖွဲ့အစည်းများသည် တဖက်တလမ်းမှဝင်ငွေ ရရှိကြသဖြင့် လူနေမှုအဆင့်အတန်းတိုးမြှင့်လာမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

၉။ ထို့ကြောင့် ဤစီမံချက်ကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကင်းလွတ်သက်သာခွင့်များအနက် ဤလုပ်ငန်းနှင့်စီလျော်မည့်ကင်းလွတ်သက်သာခွင့်များကို ခွင့်ပြုပါရန်တင်ပြအပ်ပါသည်။

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)
ဒုတိယဗိုလ်မှူးကြီးသန်းထွန်း(ငြိမ်း)၊ဌာနကြီးမှူး
အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး

၂၀၀၉၂
၁၄.၃.၂၀၁၃



**MYANMA ECONOMIC HOLDINGS LIMITED**

**မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်**

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

***Reference No.*** ဦးပိုင်/ဆင်မင်း-၃/ထွေ( ၈၇၅ /၂၀၁၃)

***Date*** ၂၀၁၃ ခုနှစ် မတ်လ (၁၄ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄. ၃. ၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/ မ-၁၂၉၉/၂၀၁၃ (၂၈၉၅)

ဆင်မင်း(၃)1200 tpd (Dry) Add On ဘိလပ်မြေစက်ရုံတည်ဆောက်၍ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်နှင့် ပါတ်သက်၍တင်ပြမှုအပေါ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြန်လည်တင်ပြရန်ကိစ္စနှင့်စပ်လျဉ်း၍ ဆောင်ရွက်ထားမှုများအား ပူးတွဲတင်ပြအပ်ပါသည်။

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)
ဒုတိယဗိုလ်မှူးကြီး သန်းထွန်း(ငြိမ်း)
ဌာနကြီးမှူး၊ အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး

မိတ္တူကို
- ရုံးလက်ခံ/မျှောစာတွဲ

အကြောင်းအရာ။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၏(၉. ၁. ၁၃)ရက်စွဲပါစာအမှတ်၊ ဦးပိုင်/ဆင်မင်း-၃/ထွေ(၀၂၈/၂၀၁၃)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃. ၁. ၁၃)ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၂၉၉/၂၀၁၃(၁၂၉၉-ဆ)

(၃) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏(၂၇. ၂. ၁၃)ရက်စွဲပါစာအမှတ်၊ ၂/၂၂၀(ခ)(၆)/(၁၃၉၄/၂၀၁၃)

(၄) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄. ၃. ၁၃)ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၂၉၉/၂၀၁၃(၂၈၉၅)

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ပင်ကျေးရွာအနီးရှိ မြေ(၂၅၂. ၃၇)ဧကတွင် တစ်နေ့လျှင်တန်(၁၂၀၀)ကျ TPD (Dry) Add On ဆင်မင်း(၃)ဘိလပ်မြေစက်ရုံတည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းချက်ပါစာဖြင့် အဆိုပြုချက်တင်ပြလာခြင်းကို ရည်ညွှန်းချက်ပါစာဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ သဘောထားတောင်းခံခဲ့ပါသည်။

၂။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ ရည်ညွှန်းချက်ပါစာဖြင့် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တစ်နေ့လျှင်တန်(၁၂၀၀)ကျ TPD (Dry) Add On ဆင်မင်း(၃)ဘိလပ်မြေစက်ရုံတည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် စပ်လျဉ်း၍အောက်ဖော်ပြပါအချက်များကို ထည့်သွင်းဆောင်ရွက်ရန် အကြောင်းကြားလာပါသဖြင့် ဆောင်ရွက်ထားရှိမှုအား တင်ပြအပ်ပါသည်-

(က) ဘိလပ်မြေစက်ရုံအတွက် အဓိကကျသော စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်ရေနှင့် ပတ်ဝန်းကျင်အရည်အသွေးစံချိန်စံနှုန်းတိုင်းတာခြင်းတို့ကို စက်မှုဝန်ကြီးဌာနမှ သတ်မှတ်ထားသောစံနှုန်းများအရ ဆောင်ရွက်ပါသည်-

(၁) **စွန့်ပစ်ရေညစ်ညမ်းမှုမရှိစေရေးဆောင်ရွက်မှု။** စွန့်ပစ်ရေကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေးအတွက် China Mianyang Hi-Wish Trading Co., Ltd အနေနှင့် China Standard နှင့်အညီ Treatment များပြုလုပ်သွားမည်ဖြစ်ကြောင်း သိရပါသည်။ စွန့်ပစ်ရေညစ်ညမ်းစေရာတွင် ကက်တမီယမ် (Cd) ပါဝင်မှု 0.3mg/1 ထက်များခြင်း၊ ခဲ (Pb) ပါဝင်မှု 1.0 mg/1 ထက်များခြင်း၊ ပြဒါး (Hg) ပါဝင်မှု 1.005mg/1 ထက်များခြင်း ဓါတုဗေဒဆိုင်ရာ အောက်ဆီဂျင်လိုအပ်မှု 160mg/1 ထက်များခြင်း၊ အနည်အနှစ်များ 200 mg/1 ထက်များခြင်း၊ တွင်းထွက်ဆီ 5mg/1 ထက်များခြင်းတို့ကြောင့်ဖြစ်ပြီး ပင်လယ်သို့စွန့်ပစ်က PH 5.0~ 9.0 အတွင်းရှိရန်လိုအပ်၍ မြစ်ထဲသို့စွန့်ပစ်ပါက စွန့်ပစ်ရေ PH 5.8~8.6 အတွင်းရှိရမည်ဖြစ်ပါသည်။ ဆင်မင်း(၃)ဘိလပ်မြေစက်ရုံစီမံကိန်းအနေနှင့် ဓါတုဗေဒပစ္စည်းများ အသုံးမပြုရသလောက်နည်းပါးခြင်း၊ ဓါတ်ပြုမှုရှုပ်ထွေးခြင်းမရှိ၍ စွန့်ပစ်ရေညစ်ညမ်းမှုမရှိစေရေး အောက်ပါနည်းလမ်းများအတိုင်းဆောင်ရွက်ရန် စီမံထားရှိပါသည်-

(ကက) **လေလွင့်ပြန်းတီးရေးစွန့်ပစ်မှုစနစ် (Wase Water Drainage System)**။ ဆင်မင်း(၃)ဘိလပ်မြေစက်ရုံမှလေလွင့်ပြန်းတီးရေး တစ်ရက်လျှင်ထုထည် $54m^3$ ထွက်ရှိမည်ဖြစ်ပါ

သည်။ Filter နှင့် သန့်စင်မှုကိရိယာများသုံးပြီး ထွက်ရှိလာမည့်ရေတွင် ရွှံ့နုန်းများ၊ ဆီများနှင့် အဆိပ်အတောက်မဖြစ်စေနိုင်သောပစ္စည်းများပါလာတတ်ပါသည်။ ၄င်းတို့ကို အနည်ထိုင်စေပြီးမှ စွန့်ပစ်ခြင်းစနစ်ဖြစ်ပါသည်။

( ခခ ) **ရေဆိုးရေညစ်စွန့်ပစ်သည့်စနစ် (Sewage Drainage System)**။ ရေဆိုးရေညစ်မှာ တစ်ရက်လျှင်ရေထုထည် 108 $m^3$ ထွက်ရှိမည်ဖြစ်ပြီး၄င်းတွင်အဓိကအားဖြင့် အော်ဂဲနစ် အညစ်အကြေးများပါဝင်ပါသည်။ China Standard အရ BOD 5 = 150-250mg/1, SS=200-400mg/1 မှုရေဆိုးတွင်ပါဝင်နေတတ်ပါသည်။ ၄င်းရေဆိုးများအား Two Phase Bio Chemical Treatment နည်းအသုံးပြုသန့်စင်မည်ဖြစ်ပြီး BOD 5≤ 20mg/1, PH=6~9, COD5≤ 100mg/1, SS≤ 70mg/1 Petroleum Substance ≤ 5mg/1 ထိ ကျဆင်းသွား၍ သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေနိုင်ကြောင်းသိရပါသည်။

( ခ ) ဘိလပ်မြေစက်ရုံတည်ဆောက်မည့်နေရာနှင့် အဓိကကုန်ကြမ်းထုံးကျောက်ထုတ်လုပ်မည့်ဧရိယာများသည် ဆင်မင်း(၁/၂)ယခင်တည်ဆောက်ထားသည့် လုပ်ကွက်အတွင်းမှ ထုတ်လုပ်သွားမည်ဖြစ်ပြီး ထုတ်လုပ်မည့် Design Plan များ Mine Transporting Road ထည့်သွင်းတည်ဆောက်ထားပြီး Top to Down စနစ်ဖြင့် အလွှာလိုက်ထုတ်လုပ်သွားမည်ဖြစ်သည်။

( ဂ ) **ထုံးကျောက်တူးဖော်ချိန်တွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက်** Limestone High Grade နှင့် Lower Grade များအား Advanced Pre-blending Technology အတိုင်းဆောင်ရွက်ထားပါသဖြင့် Enviromental Production ဆောင်ရွက်ထားပြီးဖြစ်ပါသည်။

(ဃ) ဘိလပ်မြေထုတ်လုပ်ရာတွင် အဓိကကုန်ကြမ်းထုံးကျောက်နှင့် လောင်စာကျောက်မီးသွေးကို အသုံးပြုရာမှထွက်ပေါ်လာမည့်မီးခိုးတွင် ပါဝင်သော ဓါတုဓါတ်ငွေ့များကြောင့်လေထုညစ်ညမ်းမှု လျော့နည်းသက်သာစေမည့်ခေတ်မီနည်းပညာများ စက်ပစ္စည်းကိရိယာများအသုံးပြုထားပါသည်။

(၁) **အရေးကြီးသောနေရာတိုင်းတွင် Electrostatic Precipitator များထားရှိခြင်း**။ ဆင်မင်း(၃) ဘိလပ်မြေစက်ရုံစီမံကိန်းတွင်အရေးပါသော ပင်မခေါင်းတိုင်နှင့် Clinker Electrostatic Precipitation ခေါင်းတိုင်တို့မှ Exhaust Gas မထုတ်လွှတ်မီ Electrostatic Precipitator ထားရှိ၍ အမှုန်များအား ဖမ်းယူစုဆောင်းပေးခြင်းဖြင့် Exhaust Gas ၏ လေထဲတွင်အမှုန်ပါဝင်မှုလျော့ချပေးနိုင်ပါသည်။

(၂) အမှုန်ထွက်နိုင်သောနေရာတိုင်းတွင် Bag Filter နှင့် Fan များထားရှိခြင်းနည်းစဉ်အရ လုပ်ငန်းလုပ်ဆောင်စဉ်အမှုန်ထွက်ရှိနိုင်သည့် နေရာတိုင်းမှ အမှုန်များကို Fan ဖြင့် စုပ်ယူ၍ Bag Filter တွင် အမှုန်များဖမ်းယူကာ အမှုန်ကင်းစင်သော ဓါတ်ငွေ့ကို ပြင်ပသို့ထုတ်ပေးခြင်းဖြစ်ပါသည်။ ဤနည်းဖြင့် လုပ်ငန်းခွင်ထိခိုက်မှုမရှိစေရေး ဆောင်ရွက်ထားရှိပါသည်။

( င ) မတော်မဆမီးလောင်ကျွမ်းမှုဖြစ်ပေါ်ပါက အနီးပတ်ဝန်းကျင်ရှိသစ်တောများသို့ မီးကူးလောင်ကျွမ်းမှုမရှိစေရန် မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးအစီအမံများ ထည့်သွင်းဆောင်ရွက်ထားရှိပါသည်-

(၁) **မီးလောင်ကျွမ်းမှုဖြစ်ပွားနိုင်သော အကြောင်းအရင်းများ**

(ကက) လူတို့၏မဆင်ခြင်မှုကြောင့် မီးလောင်ကျွမ်းမှုဖြစ်ပေါ်ခြင်း

( ခခ ) အဖျက်သမားသောင်းကျန်းသူများမှ မီးရှို့ဖျက်ဆီးခြင်း

( ဂဂ ) လျှပ်စစ်ဝါယာကြိုးများ၏ ရှော့ကြောင့် မီးလောင်ကျွမ်းခြင်း

(ဃဃ) စက်ရုံ၏ခါတ်ငွေ့နှင့် လျှပ်စစ်မီးဖိုများမှ မတော်တဆဖြစ်စဉ်များကြောင့်မီးလောင်ကျွမ်းခြင်း

( ငင ) တောမီးများမှ ကူးစက်လောင်ကျွမ်းနိုင်ခြင်း။

(၂) **ရေရရှိနိုင်သောနေရာများ**

ဆင်မင်းဘိလပ်မြေစက်ရုံ အောက်ပါနေရာများမှ ရေရရှိနိုင်ပါသည်-

(ကက) ဂါလံ(၉၀၀၀၀၀)ရေကန်

( ခခ ) ဆင်မင်း(၁)စက်ရုံ ရေပေးဝေရေးဌာနရှိဂါလံ (၃၀၀၀၀၀)ရေကန်

( ဂဂ ) ဆင်မင်း(၂)စက်ရုံ ရေပေးဝေရေးဌာနရှိဂါလံ (၅၀၀၀၀၀)ရေကန်

(၃) **မိမိစက်ရုံ**

(ကက) လူ။ မိမိစက်ရုံဝန်ထမ်း(၆၉၀)ဦး

( ခခ ) ယာဉ်။ ဒေါင်ဖန်းရေသယ်ယာဉ်(၁)စီး၊ ဒေါင်ဖန်းမီးသတ်ယာဉ်(၁)စီး

(၄) **သာမန်အချိန် ကြိုတင်ကာကွယ်ခြင်း**

(ကက) မီးကင်းလုံခြုံရေးချထားခြင်း။ နေ့ဘက်တွင်ဂိတ်လုံခြုံရေးများမှ ထုတ်နုတ်၍ စက်ရုံအတွင်း လှည့်လည်စောင့်ကြည့်ထားပြီး ညဘက်တွင်တာဝန်မှူး၊ တာဝန်ကြပ်ကြီးဦးစီး လုံခြုံရေးဝန်ထမ်းများအပါအဝင်လှည့်ကင်းဖြင့် စောင့်ကြည့်ထားရန်။

( ခခ ) မီးသတ်ဗူးများ။ မီးလောင်ကျွမ်းချိန်တွင် စနစ်တကျအသုံးပြုနိုင်ရန်အတွက် မီးချိတ်၊ မီးကပ်၊ သဲအိတ်များကို ဌာန/ဌာနခွဲအားလုံးအိမ်ထောင်သည်လိုင်းခန်းများတွင် ထားပြီးဖြစ်ပါသည်။

(၅) **မီးချိတ်/မီးကပ်/သဲအိတ်**။ မီးလောင်ကျွမ်းချိန်တွင် စနစ်တကျအသုံးပြုနိုင်ရန်အတွက် မီးချိတ်၊ မီးကပ်၊ သဲအိတ်များကို ဌာန/ဌာနခွဲအားလုံးအိမ်ထောင်သည်လိုင်းခန်းများတွင် ထားပြီးဖြစ်ပါသည်။

(၆) **ရေကန်/ရေပုံးများ**။ မီးလောင်မှုဖြစ်ပွားချိန်တွင် ဂါလံ(၉၀၀၀၀၀)၊ ဂါလံ(၃၀၀၀၀၀)၊ ဂါလံ(၅၀၀၀၀၀) ဆန့် ရေကန်မှ ရေကိုခပ်ယူအသုံးပြု၍ မီးငြိမ်းသတ်နိုင်ရေးဌာနခွဲအားလုံးကို ရေပုံးများထားရှိဆောင်ရွက်ပြီးဖြစ်ပါသည်။

(၇) **လျှပ်စစ်မီးများသုံးစွဲမှုစစ်ဆေးခြင်း**။ လျှပ်စစ်မီးများသွယ်တန်းထားရှိမှုကာလ ကြာမြင့်ပျက်စီးချို့ယွင်းမှုကြောင့်လည်းကောင်း၊ လျှပ်စစ်မီးခလုတ်များစနစ်တကျသုံးစွဲမှုမရှိခြင်းကြောင့်လည်းကောင်း၊ မတော်တဆမီးလောင်ကျွမ်းမှုဖြစ်ပွားတတ်သဖြင့် စက်ရုံအတွင်းရှိ အဆောက်အဦ စက်ပစ္စည်းအားလုံး လျှပ်စစ်မီးသွယ်တန်းထားရှိမှု စနစ်တကျရှိ/မရှိ စစ်ဆေးကြပ်မတ်ရမည်။ စစ်ဆေးကြပ်မတ်ရေးအဖွဲ့အား အောက်ပါအတိုင်းဖွဲ့စည်းထားရှိပြီး တစ်လလျှင်(၄)ကြိမ် စစ်ဆေးသွားမည်ဖြစ်ပါသည်-

**ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ**

(ကက) ဥက္ကဋ္ဌ လ/ထစက်ရုံမှူး(နည်းစဉ်)

( ခခ ) အဖွဲ့ဝင် အလုပ်ရုံမှူး (ကုန်ချော)

( ဂဂ ) အဖွဲ့ဝင် ဌာနခွဲမှူး (ကုန်ကြမ်း)

(ဃဃ) အဖွဲ့ဝင် ဌာနခွဲမှူး (မီးသင်းဖို)

( ငင ) အတွင်းရေးမှူး ဌာနခွဲမှူး (စီမံခန့်ခွဲရေး)

(၈) **အရေးပေါ်အချိန်။** မီးဘေးအန္တရာယ်ကျရောက်နိုင်သည့်ကာလအတွင်း အောက်ပါအတိုင်းပြင်ဆင်သွားမည်-

(၁) **မီးငြိမ်းသတ်ရေးအဖွဲ့။** အောက်ပါအတိုင်းဖြစ်ပါသည်-

(ကက) လ/ထစက်ရုံမှူး(နည်းစဉ်) အဖွဲ့ခေါင်းဆောင်

( ခခ ) ဌာနခွဲမှူး (ခွဲစက်ဌာန) အဖွဲ့ဝင်

( ဂဂ ) ဌာနခွဲမှူး(ကုန်ကြမ်းဌာန) အဖွဲ့ဝင်

(ဃဃ) အလုပ်ရုံခွဲမှူး(ကုန်ချော) အဖွဲ့ဝင်

( ငင ) မီးငြိမ်းသတ်ရေးအဖွဲ့တာဝန်။ **မီးငြိမ်းသတ်ရေးအဖွဲ့သည် အရေးပေါ်နှင့်** အရေးကြီးချိန်များတွင် စက်ရုံဝန်းကျင်နှင့် စက်ရုံအတွင်းမီးလောင်ကျွမ်းမှုဖြစ်ပေါ်ပါက စုရပ်အဖြစ်မီးလောင်မှုဖြစ်ပွားရာ နေရာအားသတ်မှတ်ပေးပြီး မီးငြိမ်းသတ်ရန်ဆောင်ရွက်ခြင်း။ မီးသတ်ဝန်ထမ်းများနှင့်အတူ ဌာနခွဲအားလုံးမှ ဝန်ထမ်း(၃)ပုံ (၁)ပုံ ပူးပေါင်းဆောင်ရွက်ငြိမ်းသတ်မည်ဖြစ်ပါသည်။

(၉) **အရေးကြီးချိန်။** မီးဘေးအန္တရာယ်ကျရောက်ချိန်တွင် အရေးပေါ်အချိန်၌ ဖွဲ့စည်းတာဝန်ပေးထားသောအဖွဲ့များအတိုင်း ဟန်ချက်ညီညီဖြင့် ဆောင်ရွက်သွားရမည်ဖြစ်ပါသည်။

(၁၀) **ဆက်သွယ်ရေး**

(က) **မီးသတ်ငုတ်။** မီးသတ်ငုတ် (Hydrant) များ ဌာနကြီး(၅)ဌာနဖြစ်သော ခွဲစက်ပတ္တား၊ ကုန်ကြမ်းကြိတ်ဌာန၊ မီးသင်းဖိုဌာန၊ ကုန်ချောကြိတ်ဌာန၊ နည်းစဉ်ဌာနများတွင် တပ်ဆင်ထားရှိမည်ဖြစ်ပြီး မီးသတ်ငုတ်များမှ တဆင့်ရေအလွယ်တကူတပ်ဆင်သုံးစွဲမည်ဖြစ်ပါသည်။

(စ) ဘိလပ်မြေထုတ်လုပ်ရာတွင် အသုံးပြုမည့်ဓါတုပစ္စည်းများ၊ ဘိလပ်မြေထုတ်လုပ်မှုလုပ်ငန်းစဉ်အတွင်း ပေါ်ထွက်လာမည့် ဖုန်နှင့် အမှုန်အမွှားများတို့ကို ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေးအတွက် ထိန်းချုပ်ဆောင်ရွက်မည့်နည်းလမ်းများအား အပြည့်အစုံမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(၁) အရေးကြီးသောနေရာတိုင်းတွင် Electrostatic Precipitation များထားရှိခြင်း၊ ဆင်မင်း(၃) ဘိလပ်မြေစက်ရုံစီမံကိန်းတွင် အရေးပါသောပင်မခေါင်တိုင်နှင့် Clinker Electrostatic Precipitation အထွက်ခေါင်တိုင်တို့မှ Exhaust Gas မထုတ်လွှင့်မီ Electrostatic Precipitator ထားရှိ၍ အမှုန့်များအားဖမ်းယူစုဆောင်းပေးခြင်းဖြင့် Exhaust Gas ၏ လေထဲတွင်အမှုန်ပါဝင်မှုလျော့ချပေးနိုင်ပါသည်။

(၂) အမှုန်ထွက်ရှိနိုင်သောနေရာတိုင်းတွင် Bag Filter နှင့် Fan ထားရှိခြင်း၊ နည်းစဉ်အရလုပ်ငန်းဆောင်စဉ်အမှုန်ထွက်ရှိနိုင်သည့် နေရာတိုင်းမှ အမှုန်များကို Fan ဖြင့် စုပ်ယူ၍ Bag Filter တွင် အမှုန်များဖမ်းယူကာ အမှုန်ကင်းစင်သောဓါတ်ငွေ့ကို ပြင်ပသို့ထုတ်ပေးခြင်းဖြစ်ပါသည်။ ထိုနည်းဖြင့် လုပ်ငန်းခွင်ထိခိုက်မှုမရှိစေရေးဆောင်ရွက်ထားရှိပါသည်။

(၃) **မြင့်မားသောမီးခိုးတိုင်များထားရှိခြင်း။** ခေါင်းတိုင်မှထွက်ရှိမည့် Exhaust Gas များသည် အနည်းငယ်ပူနေသေးသည့်အပြင် ပူ၍အမှုန်အနည်းငယ်ရှိနိုင်သည့် မီးခိုးခေါင်းတိုင်များအား ဤစီမံကိန်းတွင် မြင့်မားစွာတည်ဆောက်ထားရှိပါသည်။

(၄) **စက်ရုံစီမံကိန်းဧရိယာအတွင်း အရွက်ကြွေမှုအနည်းဆုံးအရိပ်ရပင်များစိုက်ပျိုးခြင်း။** ရာသီဥတုပြောင်းလဲမှုကြောင့်သော်လည်းကောင်း၊ စက်ရုံ၏ရုံဖန်ရုံခါဖြတ်တတ်သော မှုမမှန်လည်ပတ်မှုကြောင့်သော် ပုံမှန်အနေအထားထက် ပိုမိုများပြားသော အမှုန်များပတ်ဝန်းကျင်တွင် ကျရောက်တတ်ပါသည်။ ထိုသို့ဖြစ်ပါက ပတ်ဝန်းကျင်ကိုထိခိုက်မှုနည်းပါစေရန် အရွက်ကြွေကျမှုနည်းပါးသောအရိပ်ရပင်များအား စီမံကိန်းနယ်မြေတွင် တစ်အုပ်တစ်မ စိုက်ပျိုးရမည်ဖြစ်ပါသည်။ စီမံကိန်းနယ်မြေတွင် စိုက်ပျိုးသွားရန်လျာထားပြီးဖြစ်၍ ၂၀၁၃-၁၄ ဘဏ္ဍာနှစ်အတွင်း မိုးရာသီတွင်စတင်စိုက်ပျိုးနိုင်ရန် ပျိုးပင်များစုဆောင်းထားပြီးဖြစ်ပါသည်။

(ဆ) **စီမံကိန်းဧရိယာအနီးရှိပြည်သူတို့၏ ကျန်းမာရေးအားစီမံကိန်းလုပ်ငန်းဆောင်ရွက်မှုကြောင့်** ပတ်ဝန်းကျင်လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများလျော့နည်းစေရန်အတွက် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းလမ်း၊ အစီအမံများအား အောက်ပါအတိုင်းဆောင်ရွက်ထားရှိပါသည်-

(၁) **ပတ်ဝန်းကျင်လေထုညစ်ညမ်းမှုမထိခိုက်စေရေး။** ဘိလပ်မြေထုတ်လုပ်ရာတွင် အဓိကကုန်ကြမ်းထုံးကျောက်နှင့် လောင်စာကျောက်မီးသွေးကိုအသုံးပြုရာမှ ထွက်ပေါ်လာမည့် မီးခိုးတွင် ပါဝင်သော ဓါတုဓါတ်ငွေ့များကြောင့်လေထုညစ်ညမ်းမှု လျော့နည်းသက်သာစေမည့် ခေတ်မီနည်းပညာများ စက်ပစ္စည်းကိရိယာများအသုံးပြုထားပါသည်။

(၂) **အရေးကြီးသောနေရာတိုင်းတွင် Electrostatic Precipitator များထားရှိခြင်း။** ဆင်မင်း(၃) ဘိလပ်မြေစက်ရုံစီမံကိန်းတွင်အရေးပါသော ပင်မခေါင်းတိုင်နှင့် Clinker Electrostatic Precipitation ခေါင်းတိုင်တို့မှ Exhaust Gas မထုတ်လွှတ်မီ Electrostatic Precipitator ထားရှိ၍ အမှုန်များအား ဖမ်းယူစုဆောင်းပေးခြင်းဖြင့် Exhaust Gas ၏ လေထဲတွင်အမှုန်ပါဝင်မှုလျော့ချပေးနိုင်ပါသည်။

(၃) အမှုန်ထွက်နိုင်သောနေရာတိုင်းတွင် Bag Filter နှင့် Fan များထားရှိခြင်းနည်းစဉ်အရ လုပ်ငန်းလုပ်ဆောင်စဉ်အမှုန်ထွက်ရှိနိုင်သည့် နေရာတိုင်းမှ အမှုန်များကို Fan ဖြင့် စုပ်ယူ၍ Bag Filter တွင် အမှုန်များဖမ်းယူကာ အမှုန်ကင်းစင်သော ဓါတ်ငွေ့ကို ပြင်ပသို့ထုတ်ပေးခြင်းဖြစ်ပါသည်။ ဤနည်းဖြင့် လုပ်ငန်းခွင်ထိခိုက်မှုမရှိစေရေး ဆောင်ရွက်ထားရှိပါသည်။

(၄) **မြင့်မားသောမီးခိုးတိုင်များထားရှိခြင်း။** ခေါင်းတိုင်မှထွက်ရှိမည့် Exhaust Gas များသည် အနည်းငယ်ပူနေသေးသည့်အပြင် ပူ၍အမှုန်အနည်းငယ်ရှိနိုင်သည့် မီးခိုးခေါင်းတိုင်များအား ဤစီမံကိန်းတွင် မြင့်မားစွာတည်ဆောက်ထားရှိပါသည်။

(၅) **လေလွင့်ပြုန်းတီးရေးစွန့်ပစ်မှုစနစ် (Wase Water Drainage System)။** ဆင်မင်း(၃) ဘိလပ်မြေစက်ရုံမှလေလွင့်ပြုန်းတီးရေး တစ်ရက်လျှင်ထုထည် 54m$^3$ ထွက်ရှိမည်ဖြစ်ပါသည်။ Filter နှင့် သန့်စင်မှုကိရိယာများသုံးပြီး ထွက်ရှိလာမည့်ရေတွင် ရွှံ့နှစ်များ၊ ဆီများနှင့် အဆိပ်အတောက်မဖြစ်စေနိုင်သောပစ္စည်းများပါလာတတ်ပါသည်။ ၎င်းတို့ကို အနည်ထိုင်စေပြီးမှ စွန့်ပစ်ခြင်းစနစ်ဖြစ်ပါသည်။

(၆) **ရေဆိုးရေညစ်စွန့်ပစ်သည့်စနစ် (Sewage Drainage System)။** ရေဆိုးရေညစ်မှာ တစ်ရက်လျှင်ရေထုထည် 108 m$^3$ ထွက်ရှိမည်ဖြစ်ပြီး၎င်းတွင်အဓိကအားဖြင့် အော်ဂဲနစ်အညစ်အကြေးများပါဝင်ပါသည်။ China Standard အရ BOD 5 = 150-250mg/1,

SS=200-400mg/1 မျှရေဆိုးတွင်ပါဝင်နေတတ်ပါသည်။ ၎င်းရေဆိုးများအား Two Phase Bio Chemical Treatment နည်းအသုံးပြုသန့်စင်မည်ဖြစ်ပြီး BOD 5≤ 20mg/1, PH=6~9, COD5≤ 100mg/1, SS≤ 70mg/1 Petroleum Substance ≤ 5mg/1 ထိ ကျဆင်းသွား၍ သဘာဝ ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေနိုင်ကြောင်းသိရပါသည်။

**(၇) ပညာရေးဆိုင်ရာ(နေ့ကလေးထိန်း/မူကြို၊ မူလတန်းကျောင်း)ဖွင့်လှစ်သင်ကြားပေးခြင်း**

(က) စက်ရုံဝန်ထမ်းများလုပ်ငန်းတာဝန်ထမ်းဆောင်နေချိန်အတွင်း သား/သမီးများ စနစ်တကျထိန်းသိမ်းစောင့်ရှောက်နိုင်ရေးနှင့် အနီးပတ်ဝန်းကျင်ရွာများမှသား/ သမီးများအား စက်ရုံဧရိယာအတွင်းဝန်ထမ်းအပိုျဆောင်အနီးတွင် နေ့ကလေးထိန်း/ မူကြိုကျောင်း(၁)ကျောင်းအား (၆. ၉. ၂၀၀၈)ရက်နေ့မှ စတင်၍ဖွင့်လှစ်ထားရှိပြီး ဖြစ်ပါသည်။

(ခ) ဝန်ထမ်းမိသားစုများ၏မူလတန်းအဆင့်ကျောင်းသားများပညာသင်ကြားမှု အဆင်ပြေ စေရန်အတွက် စက်ရုံနယ်မြေဧရိယာအတွင်းတွဲဖက်မူလတန်းကျောင်း(၁)ကျောင်းအား (၈. ၉. ၂၀၀၈)ရက်နေ့တွင် စတင်ဖွင့်လှစ်ထားရှိနိုင်ခဲ့ပြီး(၁၆. ၉. ၂၀၁၂)ရက်နေ့တွင် မူလတန်းကျောင်းအဆင့်ထိ တိုးမြှင့်ရရှိပြီးဖြစ်ပါသည်။ ယခုအခါ ကျောင်းအုပ်ဆရာမ အပါအဝင် ဆရာမ(၄)ဦး၊ ကျောင်းသား(၁၀၄)ဦးဖြင့် ကျောင်းဖွင့်လှစ်သင်ကြားပေးလျှက် ရှိပါသည်။

(ဂ) မူလတန်းကျောင်းနှင့် အထက်တန်းကျောင်းသား/ကျောင်းသူများအားစက်ရုံနှင့် (၄)မိုင် ခန့်အကွာ အ. ထ. က(၄)ကျောင်းသို့ နေ့စဉ်ကျောင်းပို့/ကြိုယာဉ်(၁)စီးစီစဉ် ဆောင်ရွက်၍ ပညာသင်ကြားပေးလျှက်ရှိပါသည်။

**(၈) ဘာသာရေးဆောင်ရွက်ခြင်း**

(က) စက်ရုံတွင် လစဉ်/နေ့စဉ်အခါကြီးဘာသာရေးရက်များတွင် ဝါဆိုသင်္ကန်းကပ်ခြင်း၊ ပတ်ဝန်းကျင်ရေပြားတောရွာရှိ ဘုန်းကြီးကျောင်းကထိန်ခင်းခြင်း၊ မြို့နယ်အဆင့်စက်ရုံ မှ ကထိန်လှူဒါန်းဆပ်ကပ်ခြင်း၊ နှစ်စဉ်မပျက်မကွက်ဆောင်ရွက်လျှက်ရှိပါသည်။

(ခ) ဘာသာရေးဆိုင်ရာကိစ္စရပ်များစဉ်ဆက်မပျက်ဆောင်ရွက်နိုင်ရေးအတွက် စက်ရုံတွင် စက်ရုံမှူးများဦးစီးဦးဆောင်ပါဝင်သော ဇွန်ဖြူပွင့်ဘာသာရေးအသင်းဖွဲ့စည်းထားရှိပြီး အပတ်စဉ်တနင်္ဂနွေနေ့တိုင်းဆွမ်းလောင်းခြင်း၊ ဝတ်ပြုရွတ်ဆိုခြင်း၊ အနီးပတ်ဝန်းကျင် ဘုန်းကြီးကျောင်းများသို့ ဆွမ်းပို့လှူဒါန်းခြင်း၊ တရားပွဲများကျင်းပပြုလုပ်ခြင်းဆောင်ရွက် ပါသည်။

(ဂ) ဘာသာရေးဝတ်အသင်းများဖွဲ့စည်းထားရှိပြီး ဝန်ထမ်းအပိုျဆောင်အနီးတွင် ဓမ္မာရုံ ခန်းမတစ်ခုအား ထားရှိဆောင်ရွက်ပါသည်။

**(၉) ပတ်ဝန်းကျင်ရွာများ၊ ဝန်ထမ်းနှင့်မိသားစုများအား သက်သာချောင်ချိရေး ဆောင်ရွက် ပေးခြင်း (၅)ရက်တစ်ဈေးစက်ရုံမှဖွင့်လှစ်ဆောင်ရွက်ခြင်း**

(က) ဝန်ထမ်းများနှင့် အိမ်ထောင်သည်မိသားစုစက်ရုံအနီးတွင် လိုအပ်သောအိမ်ထောင်၊ အစားအစာပစ္စည်းများလွယ်ကူစွာဝယ်ယူနိုင်ရေးအတွက် (၂၉. ၉. ၂၀၁၂)ရက်နေ့မှ စတင်၍ မြို့နယ်စည်ပင်သာယာရေးနှင့်ညှိနှိုင်း၍ အခွန်လွတ်ဈေးအဖြစ်ဖွင့်လှစ်ဆောင် ရွက်ပေးနိုင်ခဲ့ပါသည်။

B/E/Desktop/Nu Nu Khin(SM 3)

( ခ) မိသားစု၏လိုအပ်ချက်ဖြစ်သော အမဲ၊ ဝက်၊ ကြက်၊ ငါး၊ ကုန်စိမ်း၊ ကုန်ခြောက်စသည့် အမျိုးအမည်စုံလင်စွာဖြင့် လိုအပ်သလိုဝယ်ယူစားသုံးနိုင်ရန် စီစဉ်ဆောင်ရွက်ပေးနိုင်ခဲ့ပါသည်။

( ဂ) ဝန်ထမ်းများနှင့်မိသားစုများ(၅)ရက်တစ်ဈေးတွင် ဝယ်ယူနိုင်သည့်အပြင် ယခင်(၅)ရက်တစ်ဈေး(ဆင်မင်းဈေး)မဖွင့်မီကာလမှပင် ဗုဒ္ဓဟူးနေ့တွင် ဈေးကားတစ်စီး၊ တနင်္ဂနွေနေ့တွင် ဈေးကား(၂)စီး၊ ပုံမှန်စက်ရုံမှဈေးကားစီစဉ်ဆောင်ရွက်ပေးလျှက်ရှိပါသည်။

(၁၀) (၁၀. ၆. ၂၀၁၀)ပြည့်နှစ်တွင် အမှတ်(၄)အခြေခံပညာအထက်တန်းကျောင်း(စက်ရုံစုနယ်မြေ -၂) (၂၅)ကုတင်ဆံ့ပြည်သူ့ဆေးရုံ (စက်ရုံစုနယ်မြေ-၂)တို့အား မန္တလေးတိုင်း၊ ကျောက်ဆည်ခရိုင်၊ ကျောက်ဆည်မြို့နယ်ရှိ ဖျောက်ဆိပ်ပင်ကျေးရွာတွင် လူ့စွမ်းအားအရင်းအမြစ်ဖွံ့ဖြိုးတိုးတက်စေနိုင်မည့်အထောက်အကူပြု ပင်မဌာနများအဖြစ် နိုင်ငံတော်အကြီးအကဲ၏လမ်းညွှန်မှုအရ တည်ဆောက်ပေးခဲ့ပါသည်။ အေးချမ်းသာယာပြီး ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်သစ်ကို တည်ဆောက်ရာတွင် စွမ်းအားအရင်းအမြစ် ဖွံ့ဖြိုးတိုးတက်ရေးသည် လူတို့၏ပညာရေး၊ ကျန်းမာရေးသည် အဓိကကျသောအခန်းမှပါဝင်လျှက်ရှိပါသည်။ နယ်စပ်ဒေသတိုးတက်ဖွံ့ဖြိုးရေးကို ဆက်လက်ဆောင်ရွက်နိုင်ရေး၊ ကျေးလက်ဒေသဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းများကို ဆက်လက်ဆောင်ရွက်ပေးနိုင်ခဲ့ပါသည်။ ကျန်းမာရေးအနေဖြင့်လည်း တိုးတက်လာသောလူဦးရေနှင့် ထိရောက်သောကုသမှုများကို ဆောင်ရွက်နိုင်ရန် ဆေးရုံကိုအသစ်ဖွင့်လှစ်ပေးနိုင်ခဲ့ပါသည်။

၃။ အောက်ပါအချက်များအား လိုက်နာဆောင်ရွက်ထားပါကြောင်း တင်ပြအပ်ပါသည်-

(က) ထုံးကျောက်တူးဖော်ခြင်းနှင့် ဘိလပ်မြေလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေး၊ ဒေသခံပြည်သူများဘေးအန္တရာယ်ကျရောက်မှုမရှိစေရေးနှင့် နစ်နာမှုမရှိစေရေးအတွက် လုပ်ငန်းအကောင်အထည်မဖော်မီ ပတ်ဝန်းကျင်နှင့် လူမှုရေးအပေါ် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental and Social Impact Accessment - ESIA) လုပ်ငန်းများဆောင်ရွက်ပြီးစီးမှုအစီရင်ခံစာအား ပူးတွဲတင်ပြအပ်ပါသည်။

( ခ) (Environmental and Social Impact Accessment - ESIA) ပတ်ဝန်းကျင်နှင့် လူမှုရေးအပေါ် ထိခိုက်မှုဆန်းစစ်ခြင်းရလဒ်များကို အခြေခံ၍ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းလမ်းများ၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲပြီး EMP အစီအစဉ်အတိုင်းအကောင်အထည်ဖော်ဆောင်ရွက်မည့်အစီအမံအား ပူးတွဲတင်ပြအပ်ပါသည်။

( ဂ) နိုင်ငံတော်မှပြဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေတို့နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင်ဆိုင်ရာ ဥပဒေသ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော် ဆောင်ရွက်သွားပါမည်။ ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်) ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်းများဆောင်ရွက်ထားပြီးဖြစ်ပါသည်။

(ဃ) ဆင်မင်း(၃)ဘီလပ်မြေစီမံကိန်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ဒေသခံပြည်သူများသိရှိနားလည်စေရန် စက်ရုံပတ်ဝန်းကျင်ရှိ ဓါတ်တော်၊ သပြေဝန်း၊ ရေပြားတော၊ ဖျောက်ဆိပ်ပင်၊ ကလေး၊ မိုင်းပန်ကျေးရွာများမှ ဥက္ကဋ္ဌများ၊ ပြည်သူများမှ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်များရရှိပြီးဖြစ်ပါသည်။ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ဝန်ကြီးချုပ်မှ သဘောထားမှတ်ချက်များရရှိပြီးဖြစ်ပါသည်-

(၁) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါ။

(၂) မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါသည်။

(၃) ဖေါ်ပြပါမြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(၄) တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်"ကန့်ကွက်ရန်မရှိပါ"။

B/E/Desktop/Nu Nu Khin(SM 3)

၂၀၁၂၇
၁၃.၃.၂၀၁၃



# MYANMA ECONOMIC HOLDINGS LIMITED
## မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

**Reference No.** ဦးပိုင်/ဆင်မင်း-၃/ထွေ(၀၇၃ /၂၀၁၃)

**Date** ၂၀၁၃ ခုနှစ် မတ်လ (၁၃)ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **ဆင်မင်း(၃)1200 tpd (Dry) Add On ဘိလပ်မြေစက်ရုံတွင် တပ်ဆင်သည့် စက်ကြီးများ၏ အချက်အလက်များပေးပို့ခြင်း**

ကျောက်ဆည်၊ ဆင်မင်း(၃)1200 tpd (Dry) Add On ဘိလပ်မြေစက်ရုံတည်ဆောက်ခြင်း စီမံကိန်းတွင် တပ်ဆင်ထားသော ဖော်ပြပါစက်အစိတ်အပိုင်း(၆)ခု၏ စက်ပိုင်းဆိုင်ရာ Type, Size, Capacity, Size of Output, Feeding Size, Motor Type, Power များအား ပူးတွဲတင်ပြအပ်ပါသည်-

(က) Limestone Jaw Crusher

(ခ) Limestone Hammer Crusher

(ဂ) Coal Mill

(ဃ) Raw Mill

(င) Cement Mill

(စ) Rotary Kiln

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)
ဒုတိယဗိုလ်မှူးကြီး သန်းထွန်း(ငြိမ်း)
ဌာနကြီးမှူး၊ အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး

မိတ္တူကို

- ရုံးလက်ခံ/မျှောစာတွဲ

57
Letter Head

# Main Equipment for Sin-Min (3) Cement

2013.3.8

| | Limestone Jaw Crusher | Limestone hammer Crusher | Coal Mill | Raw Mill | Cement Mill | Rotary Kiln |
|---|---|---|---|---|---|---|
| Type | PE-1200×1500 | PCF2018 | Φ3.0×(6+3)m | Φ3.8×8.6m | Φ3.2×13m | Φ3.6×52m |
| Size | 1200X1500 | ф2020X1993 | Φ3.0×(6+3)m | Φ3.8×8.6m | 2×Φ3.2×13m | Φ3.6×52m |
| Capacity | 300-500 m³/h | 400～500t/h | ≥16-18t/h | 90-120t/h | 2×40t/h | 1650t/d |
| Size of output | 200mm | ≤25mm | 0.08mm<3-5% | 0.08<12%-14% | 3200-3400cm²/g | / |
| Feeding size | ≤1000×800mm | 200mm | ≤25mm | ≤25mm | ≤20mm | / |
| Motor Type | YR355L2-8 | YRKK560-6 | YRKK560-8 | YR1600-8/1430 | YR1600-8/1430 | ZSN4-315-012 |
| Power | 185KW | 710KW | 630kw | 1600 kw | 1600kw | 250KW |





# MYANMA ECONOMIC HOLDINGS LIMITED
## မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.


**Reference No.** ဦးပိုင်/ဆင်မင်း-၃/ထွေ( ၀၆၂ /၂၀၁၃)        **Date** ၂၀၁၃ခုနှစ်ဖေဖော်ဝါရီလ(၂၈)ရက်

သို့

သက်ဆိုင်ရာ

အကြောင်းအရာ ။ **ဆင်မင်း(၃)ဘိလပ်မြေစက်ရုံစီမံကိန်းချေးငွေ ယူရို(၁၀)သန်းပေးချေရမည့်ကိစ္စတင်ပြခြင်း**

၁။ ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ တည်ဆောက်ရေးစီမံကိန်း၌ မတည်ငွေရင်းပမာဏတွင် ထည့်ဝင်ငွေ ကျပ်သန်း(၂၇၄၀)နှင့် ယူရို(၂၅. ၆)သန်းအနက် ထည့်ဝင်ငွေယူရို(၁၅. ၆)သန်းနှင့် ချေးငွေယူရို(၁၀)သန်းဖြစ်ရာ ချေးငွေ ယူရို(၁၀)သန်းအား (၁)ယူရိုလျှင် တရုတ်ယွမ်(၉. ၃)နှုန်းဖြင့် တရုတ်ယွမ်စုစုပေါင်း ¥ ၉၃၀၀၀၀၀၀ ပေးချေရမည် ဖြစ်ပါသည်။

၂။ ထိုကဲ့သို့ စုစုပေါင်း တရုတ်ယွမ် ၉၃၀၀၀၀၀၀ ပေးချေရာတွင် တစ်နှစ်လျှင် အတိုးနှုန်း ၂%ဖြင့် လေးနှစ်အတွင်း (၁၆)ကြိမ်ခွဲပေးချေရမည်ဖြစ်သဖြင့် အတိုးတရုတ်ယွမ် ၅၃၄၇၅၀၀ အပါအဝင် စုစုပေါင်းတရုတ်ယွမ် ၉၈၃၄၇၅၀၀ (တိုး + ရင်း)ကို China Mianyang Hi-Wish Trading Co.,Ltd သို့ ပူးတွဲပါအတိုင်း ပေးချေရမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

ဒုတိယဗိုလ်မှူးကြီးလှုစိန်(ငြိမ်း)
စက်ရုံမှူး၊ ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ

မိတ္တူကို
- ရုံးလက်ခံ/မျှောစာတွဲ

Annex-7

# Deferred Payment Agreement
## for Sin-Min(3) Cement Plant in Myanmar

1 As for the remaining cost of the TECHNOLOGY EQUIPMENT in ARTICLE 7-3 of the **Said Contract** amount **EURO 10,000,000.00** (Europe Union Euro: ten million only) ,shall be paid as deferred payment, but it would be paid by china Ren Min Bi (RMB) Yuan. The payment account of china Ren Min Bi (**RMB**) Yuan · s value would be ninety-three million Yuan only (¥93,000,000). The deferred payment shall be paid within 4(four)years, with due interest of 2.0% per annual. payment shall be paid in consecutive and equally divided quarterly, totally 16 (sixteen) terms. The interest shall be counted from the date of 1 (one) month commencing from the date of the bill of lading of the first shipment .

2 The Union of Myanmar Economic Holdings Ltd. shall make payment of deferred instalment as per the following payment schedule




| Instalments | Full Month From Commencing Product Cement | Payment (RMB) | | |
|---|---|---|---|---|
| | | Cost | Interest | Amount |
| 1 | 2 | ¥5,812,500 | ¥1,860,000 | ¥7,672,500 |
| 2 | 5 | ¥5,812,500 | ¥435,937.5 | ¥6,248,437.5 |
| 3 | 8 | ¥5,812,500 | ¥406,875 | ¥6,219,375 |





| | | | | |
|---|---|---|---|---|
| 4 | 11 | ¥5,812,500 | ¥377,812.5 | ¥6,190,312.5 |
| 5 | 14 | ¥5,812,500 | ¥348,750 | ¥6,161,250 |
| 6 | 17 | ¥5,812,500 | ¥319,687.5 | ¥6,132,187.5 |
| 7 | 20 | ¥5,812,500 | ¥290,625 | ¥6,103,125 |
| 8 | 23 | ¥5,812,500 | ¥261,562.5 | ¥6,074,062.5 |
| 9 | 26 | ¥5,812,500 | ¥232,500 | ¥6,045,000 |
| 10 | 29 | ¥5,812,500 | ¥203,437.5 | ¥6,015,937.5 |
| 11 | 32 | ¥5,812,500 | ¥174,375 | ¥5,986,875 |
| 12 | 35 | ¥5,812,500 | ¥145,312.5 | ¥5,957,812.5 |
| 13 | 38 | ¥5,812,500 | ¥116,250 | ¥5,928,750 |
| 14 | 41 | ¥5,812,500 | ¥87,187.5 | ¥5,899,687.5 |
| 15 | 44 | ¥5,812,500 | ¥58,125 | ¥5,870,625 |
| 16 | 47 | ¥5,812,500 | ¥29,062.5 | ¥5,841,562.5 |
| 17 | Total | ¥93,000,000 | ¥5,347,500 | ¥98,347,500 |

The SELLER agree can be paid in equivalent amount of Kyats or cement and the money exchange rate on the date of payment

3 No payment under this AGREEMENT shall be delayed or withheld by the **Purchaser**.

4 The **Purchaser**'s obligation to pay deferred payment and due interest shall be absolute and unconditional even if under the condition that the occurrence of the Force Majeure stipulated in Article 9 happens after acceptance of the **Said Plant**.








MYANMA ECONOMIC HOLDINGS LIMITED
မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

Reference No. ၃/၈/အခရ/ပိုင် (၉၅၆ / ၂၀၁၃)

Date ၂၀၁၃ ခုနှစ်၊ မတ်လ ၁၄ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

အကြောင်းအရာ။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီဆောင်ရွက်မည့် အစီအစဉ်များတင်ပြခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄-၃-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၃၀၉/၂၀၁၃(၂၈၈၉)

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ အင်းတကော်ကျေးရွာ၊ အင်းတကော်စက်မှုနယ်မြေတွင် မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြခဲ့ရာ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရမည့်အချက်များကို ဖော်ပြလျက် လိုက်နာဆောင်ရွက်မည့်အစီအစဉ်များကို ကော်မရှင်သို့ ပြန်လည်တင်ပြရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည့် အစီအစဉ်များကို ဤစာနှင့်အတူ ပူးတွဲတင်ပြအပ်ပါသည်။

မန်နေဂျင်းဒါရိုက်တာ (ကိုယ်စား)
ဒုတိယဗိုလ်မှူးကြီးသန်းထွန်း(ငြိမ်း)၊ ဌာနကြီးမှူး

မိတ္တူကို
ရုံးလက်ခံ
မျှောစာတွဲ

KKS

# KAUNG KYAW SAY GROUP OF COMPANIES
## KAUNG KYAW SAY ENGINEERING CO., LTD

Your Most Reliable Service Company in Myanmar

စာအမှတ် EIA၀၂/၁၃
မတ်လ ၁၂ရက်၂၀၁၃ခုနှစ်

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ် (၃၂) နေပြည်တော်။

အကြောင်းအရာ။ မြန်မာ့စီးပွါးရေးဦးပိုင်လီမိတက်မှပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ် အင်းတကော်ကျေးရွာအနီးရှိ အင်းတကော်စက်မှုနယ်မြေတွင်မော်တော် ယာဥ်တပ်ဆင်ထုတ်လုပ်ရေးစက်ရုံတည်ဆောက်ခွင့်တင်ပြရာတွင်သဘာဝပတ်ဝန်းကျင်နှင့်ပတ်သက်သည့်ကိစ္စ။

(၁)မြန်မာ့စီးပွါးရေးဦးပိုင်လီမိတက်မှပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ် အင်းတကော်ကျေးရွာအနီး ရှိ အင်း တကော်စက်မှုနယ်မြေတွင်မော်တော်ယာဥ်တပ်ဆင်ထုတ်လုပ်ရေးစက်ရုံတည်ဆောက် ခြင်းနှင့်ပတ်သက်၍အောက်ဖေါ်ပြပါအစီအရင်ခံစာများအတွက်ကျွန်တော်များ Kaung Kyaw Say Engineering Co.,Ltd မှ ၁၂/၃/၁၃ နေ့တွင်လုပ်ငန်းအတွက်စရံငွေ လက်ခံရယူပြီး လုပ်ငန်းများ စတင်လုပ် ဆောင်လျက်ရှိပါသည်။

(က)ပတ်ဝန်းကျင်ဆိုင်ရာကနဦးလေ့လာခြင်း Initial Environmental Examination (IEE)
(ခ)ပတ်ဝန်းကျင်ထိခိုက်မှုဆိုင်ရာဆန်းစစ်ခြင်း Environmental Impact Assessment (EIA) နှင့်လူမှုစီးပွါးရေးဆိုင်ရာထိခိုက်မှုဆန်းစစ်ခြင်း Social Impact Assessment (SIA)
(ဂ)ပတ်ဝန်းကျင်ထိမ်းသိန်းရေးဆိုင်ရာစီမံထားရှိမှုအစီအစဉ်များ Environmental Management Plan (EMP)

(၂)အဆိုပါအစီအရင်ခံစာများကို ၁၄. ၃. ၁၃ နေ့တွင်စတင်ဆောင်ရွက်မည်ဖြစ်ပြီးအဆိုပါရက်မှ၂လ အတွင်းပြီးစီး အောင်ဆောင်ရွက်၍ဆက်လက်တင်ပြသွားမည်ဖြစ်ပါကြောင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်
12/3/13
ထွန်းနိုင်အောင်
ဥက္ကဋ္ဌ

KAUNG KYAW SAY ENGINEERING CO., LTD.
No. EIA 02/13
Date 12/3/13

မိတ္တူ။
(၁)မန်းနေဂျင်းဒါရိုက်တာ၊
မြန်မာ့စီးပွါးရေးဦးပိုင်လီမိတက်၊
(၂)အင်းတကော်စက်မှုနယ်မြေ၊
မြန်မာ့စီးပွါးရေးဦးပိုင်လီမိတက်၊
(၃)ရုံးလက်ခံ။



၁၄.၁.၂၀၁၃


**MYANMA ECONOMIC HOLDINGS LIMITED**

မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.


Reference No. ဦးပိုင်/ဆင်မင်း/ထွေ (၀၃၀ /၂၀၁၃)

Date ၂၀၁၃ခုနှစ်ဇန်နဝါရီလ( ၉ )ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

အကြောင်းအရာ။ **မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၏ ဆင်မင်း(၃)ဘိလပ်မြေစက်ရုံတည်ဆောက်ခြင်း စီမံကိန်းနှင့်ပတ်သတ်၍ ရင်းနှီးမြှုပ်နှံလိုသူ၏ကတိဝန်ခံချက် တင်ပြခြင်း**

၁။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူတစ်ဦးတစ်ယောက်မှပိုင်ဆိုင်မှု မရှိကြောင်း ဝန်ခံကတိပြုပါသည်။

၂။ ကော်မရှင်မှလုပ်ငန်းတွင် အသုံးပြုရန်အတွက် တင်သွင်းခွင့်ပြုထားသည့်စက်ကိရိယာ၊ လုပ်ငန်းသုံးပစ္စည်းနှင့် အခြားပစ္စည်းများကို ကော်မရှင်မှခွင့်ပြုသည့် အဆိုပြုလုပ်ငန်းအတွက်သာအသုံးပြုမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၃။ ပြည်ပမှစက်ပစ္စည်းကိရိယာများ၊ စက်အရံပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့်အခြား ပစ္စည်းများကို ဈေးငွေစနစ်ဖြင့်ဝယ်ယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့်သက်ဆိုင်ခြင်းမရှိဘဲ ဈေးရောင်းသူနှင့်ဈေးဝယ်သူတို့၏ တာဝန်သာဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၄။ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု၊ မီးဘေး အန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို သက်ဆိုင်ရာဌာနများ၏ ညွှန်ကြားချက်နှင့်အညီ စနစ်တကျထားရှိဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြု ပါသည်။

၅။ လုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်မှသတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၆။ အဆိုပါလုပ်ငန်းအတွက် တည်ဆောက်မည့်စက်ရုံအဆောက်အဦးများနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ နိုင်ငံတော်အာဏာပိုင်အဖွဲ့အစည်းများမှသတ်မှတ်ထားသည့် စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက် မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၇။ ဘိလပ်မြေထုတ်လုပ်ခြင်းနှင့်ပတ်သတ်၍ ထုတ်လုပ်သည့်နည်းစနစ်ကို တစ်နှစ်ထက်တစ်နှစ် ကောင်းမွန်အောင်ပြုပြင်ဆောင်ရွက်ပြီး စံချိန်မီဘိလပ်မြေများကို ထုတ်လုပ်ရန်စီစဉ်ပါမည်။

၈။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အခါအားလျော်စွာချမှတ်ထုတ်ပြန်ထားသော စည်းမျဉ်း စည်းကမ်းများကို သိရှိလိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်းနှင့် အထက်ဖော်ပြပါကတိပြုချက်များကို လိုက်နာဆောင်ရွက်ခြင်းမရှိပါက ဆောင်ရွက်လျက်ရှိသည့်စက်ရုံအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြစ်ဒဏ်များချမှတ်ခံရမည်ကို သိရှိနားလည်ကြောင်းဝန်ခံကတိပြုပါသည်။

| | | | |
|---|---|---|---|
| လက်မှတ် | | ကုမ္ပဏီအမည် | မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် |
| အမည် | ဒုတိယဗိုလ်မှူးကြီးသန်းထွန်း(ငြိမ်း) | လိပ်စာ/ဖုန်း | ၀၁.၃၉၇၄၇၂ |
| ရာထူး | ဌာနကြီးမှူး<br>အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး | နေ့စွဲ | ၁၀.၁.၂၀၁၃ |

အသိသက်သေ

| | | | |
|---|---|---|---|
| လက်မှတ် | | ကုမ္ပဏီအမည် | ဆင်မင်းဘိလပ်မြေစက်ရုံ |
| အမည် | ဒုတိယဗိုလ်မှူးကြီးလှစိန်(ငြိမ်း) | လိပ်စာ/ဖုန်း | ၀၆၆.၅၀၄၇၅၊ ၀၆၆.၅၀၄၈၉ |
| ရာထူး | စက်ရုံမှူး | နေ့စွဲ | ၁၀.၁.၂၀၁၃ |

ၺုယ်ၜါဂြိုၚ်ဗၟာ

ဖျၚ်လ္ၚ်သၞံဂြိုဟ်ၜွးဍုၚ်

ၜၚ်ဒဂဝ်ဂြိုဟ်ၜွးဍုၚ်ပ္ဍဲလဝ်ဍုၚ်ကွာ်ဂြ



ပုံစံ (မနသ-၁)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်
[ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ဂ ]

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ ၂၄ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော် အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့် ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည် -

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

(က) အမည် ........ ဗိုလ်ချုပ် ဇာနည်ဝင်း

(ခ) အဖအမည် ........ ဗိုလ်မှူးကြီး ဝင်း(ငြိမ်း) (ကွယ်လွန်)

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ........ ၁၂/ဒဂန(နိုင်)၀၁၀၂၂၀

(ဃ) နေရပ်လိပ်စာ ........ ပစ္စည်းဝယ်ယူမှုညွှန်ကြားရေးမှူးရုံး၊ ရွာတော်

........

........

(င) လူမျိုး၊ ဘာသာ ........ ဗမာ၊ ဗုဒ္ဓဘာသာ

(စ) အဖွဲ့အစည်း အမည် ........ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

(ဆ) လုပ်ငန်း အမျိုးအစား ........ အထွေထွေစီးပွားရေးလုပ်ငန်းများအုပ်စု

(ဇ) အဖွဲ့အစည်း တည်ရှိရာအရပ် ........ အမှတ်(၁၈၉/၁၉၁) မဟာဗန္ဓုလလမ်း၊

........ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့

........

။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ-

(က) လုပ်ငန်းအမျိုးအစား ပြည်ပသွင်းကုန်အစားထိုးဘိလပ်မြေထုတ်လုပ်မှုလုပ်ငန်း

( ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှု စသည့်ဖြင့်ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများခန့်မှန်းမြေပုံညွှန်း F-768196ဖျောက်ဆိပ်ပင်

ကျေးရွာအနီး၊ကျောက်ဆည်မြို့နယ် မန္တလေးတိုင်းဒေသကြီး

(ဂ) ဆောင်ရွက်ပုံနည်းစနစ် Ordinaty Portland Cement BS-12/996 စံနှုန်းအတိုင်း

ထုတ်လုပ်၍စျေးနှုန်းသက်သာစွာဖြင့် ဒေသန္တရဖြန့်ဖြူး ရောင်းချပါမည်။

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက်-

| | အမျိုးအစား | အရေအတွက် |
|---|---|---|
| ၁။ | Annex : 2 | ............. |
| ၂။ | .......... | .............. |
| ၃။ | .......... | ............. |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်

| | အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|---|
| ၁။ | လျှပ်စစ်ဓါတ်အား | 12500 KVA |
| ၂။ | ဓါတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | 500 KVA |
| ၃။ | ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | ............. |
| ၄။ | သဘာဝဓါတ်အားသုံးစက်အား | ............. |
| ၅။ | ပေးပို့သည့်အခြားအား (ရေအား/လေအားစသည်များ) | ............. |

(စ) နှစ်စဉ် ရေလိုအပ်ချက် တစ်ရက် (၂၂၀၀၀၀)ဂါလံ

(နေ့စဉ်ရေလိုအပ်ချက်ရှိလျှင်ဖော်ပြရန်)

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ ကုန်ကြမ်းလိုအပ်ချက်

| | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|---|
| ၁။ | အဓိကကုန်ကြမ်း | | | |
| | (၁) Annex : 3 | | | |
| | (၂) | | | |
| ၂။ | အထောက်အကူကုန်ကြမ်း | | | |
| | (၁) Natura Gas | ကုဗပေ | (၁)နှစ်(၄. ၈)သန်း | ကျပ်သန်း ၂၉၇၂. ၆ |
| | (၂) | | | |
| ၃။ | စက်သုံးဆီ/ဓါတ်ငွေ့များ | | | |
| | (၁) Annex : 2 | | | |
| | (၂) | | | |

(ဇ) အဆောက်အအုံ လိုအပ်ချက် ကျပ်သန်း ၁၀၄၁၇ Annex : 1

(ဈ) မြေနေရာအမျိုးအစားနှင့်အကျယ်အဝန်းလိုအပ်ချက် လက်ရှိဆင်မင်း(၁/၂)ဧရိယာမြောက်ဘက် အလျား(၁၉၆၉)ပေ၊အနံ(၄၉၂)ပေ၊ (၉၆၈၇၄၈)စတုရန်ပေ(၂၂. ၂၃)ဧကတွင် တည်ဆောက်ခြင်း ဖြစ်ပါသည်။

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ဆောင်ရွက်မည့်ဝန်ဆောင်မှု

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| | Annex : 4 | | |

(ဋ) ရောင်းချမည့်နည်းစနစ်အထက်မြန်မာပြည်မြို့ကြီးများတွင်လက်လီလက်ကားဆိုင် များဖွင့်လှစ်၍ အများပြည်သူသို့ ဈေးနှုန်းသက်သာစွာဖြင့်ရောင်းချရန်။

ပစ္စည်းများအားဦးစားပေးအလိုက်ပြောင်းရွှေ့နိုင်ရေး စီမံပေးမည်ဖြစ်ပါသည်။

(၄) **ကယ်ဆယ်ရေးနှင့်လုံခြုံရေးအဖွဲ့**။ အောက်ပါအတိုင်း ဖွဲ့စည်းဆောင်ရွက်ထားရှိပါသည်-

| | | |
|---|---|---|
| (ကက) | အလုပ်ရုံမှူး(ကုန်ချောဌာန) | အဖွဲ့ခေါင်းဆောင် |
| (ခခ) | ဌာနခွဲမှူး (ကုန်ကြမ်းဌာန) | အဖွဲ့ဝင် |
| (ဂဂ) | ဌာနခွဲမှူး (ကုန်ချောဌာန) | အဖွဲ့ဝင် |
| (ဃဃ) | ဌာနစုမှူး (ခွဲစက်ဌာန) | အဖွဲ့ဝင် |

(ငင) **ကယ်ဆယ်ရေးနှင့် လုံခြုံရေးအဖွဲ့တာဝန်**။ မီးလောင်မှုဖြစ်ပွားပါက ဒဏ်ရာအနာတရရရှိသူများကို ကယ်ဆယ်ရေးအဖွဲ့မှ စောင့်ရှောက်ကုသ ပြုစုမှုများဆောင်ရွက်၍ ကွပ်ကဲရေးအဖွဲ့အားလုံး ၏လုပ်ငန်းဆောင်ရွက်မှုများ လုံခြုံရေးကို တာဝန်ယူဆောင်ရွက်ရမည်ဖြစ်ပါသည်။

(၅) **ဆက်သွယ်ရေးအဖွဲ့**။ အောက်ပါအတိုင်း ဖွဲ့စည်းဆောင်ရွက်ထားရှိပြီးဖြစ်ပါသည်-

| | | |
|---|---|---|
| (ကက) | အလုပ်ရုံမှူး(နည်းစဉ်ဌာန) | အဖွဲ့ခေါင်းဆောင် |
| (ခခ) | ဌာနခွဲမှူး (ကုန်ချောဌာန) | အဖွဲ့ဝင် |
| (ဂဂ) | ဌာနခွဲမှူး (ကုန်ကြမ်းဌာန) | အဖွဲ့ဝင် |

(ဃဃ) **ဆက်သွယ်ရေးအဖွဲ့တာဝန်**။ မီးလောင်မှုဖြစ်ပွားနေချိန် သက်ဆိုင်ရာ မီးသတ်/ခရိုင်အုပ်ချုပ်ရေးမှူး/ မြို့နယ်အုပ်ချုပ်ရေးမှူး/ မြန်မာနိုင်ငံရဲတပ်ဖွဲ့များသို့တယ်လီဖုန်းဖြင့်ဖြစ်စေ၊ ဆက်သားနည်းဖြင့်ဖြစ်စေ သင့်လျော်သောနည်းလမ်းဖြင့် အမြန်ဆုံးအကြောင်းကြားခြင်း၊ အကူအညီတောင်းခံခြင်းမီးသတ်ပစ္စည်းများသယ်ယူရေးအတွက် ကွပ်ကဲစီမံမှုပြုလုပ်ရမည်။

(၆) **အရန်အဖွဲ့**။ အောက်ပါအတိုင်း ဖွဲ့စည်းဆောင်ရွက်လျက်ရှိပါသည်-

| | | |
|---|---|---|
| (ကက) | အလုပ်ရုံမှူး(ပီးသင်းဖို့ဌာန) | အဖွဲ့ခေါင်းဆောင် |
| (ခခ) | ဌာနခွဲမှူး (ကုန်ချောဌာန) | အဖွဲ့ဝင် |
| (ဂဂ) | ဌာနခွဲမှူး (နည်းစဉ်ဌာန) | အဖွဲ့ဝင် |

(ဃဃ) **အရန်အဖွဲ့တာဝန်**။ စက်ရုံအတွင်းနှင့် အခြားစက်ရုံများ မီးလောင်မှုဖြစ်ပွားပါက စက်ရုံမှထုတ်နှုတ်ဝန်ထမ်းများနှင့် အဖွဲ့ခွဲဆောင်ရွက်ရန်။

(ခ) **အရေးကြီးပစ္စည်းများနှင့် မှတ်တမ်းများ စနစ်တကျထားရှိရေး**။ အောက်ပါအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ပါသည်-

(၁) မီးလောင်မှုဖြစ်ပွားပါက အလွယ်တကူရွှေ့ပြောင်းနိုင်သည့် ဌာနခွဲများအလိုက်

အရေးကြီးပစ္စည်းများ၊ ငွေစာရင်းများ၊ ချလံပြေစာများ၊ မှတ်တမ်းများကို သက်ဆိုင်ရာ စုမှူးများမှ ကြီးကြပ်၍ ဦးစားပေးရွှေ့ပြောင်းနိုင်ရန် စနစ်တကျထိန်းသိမ်းထားရှိရမည်။

(၂) ပစ္စည်းများ ရွှေ့ပြောင်းသယ်ယူရာတွင် အောက်ပါအတိုင်း ဦးစားပေးအဆင့် သတ်မှတ် သယ်ယူရွှေ့ပြောင်းရမည်ဖြစ်ပါသည်-

(ကက) **ဦးစားပေး(၁)။** ငွေသားနှင့် ချက်လက်မှတ်၊ ချလံပြေစာများ၊ ငွေစာရင်းလယ်ဂျာများနှင့် ကုန်ရောင်းကုန်ဝယ်ပြေစာများ၊ ကွန်ပျူတာများနှင့် မှတ်တမ်းများ။

(ခခ) **ဦးစားပေး(၂)။** စက်ပစ္စည်းများနှင့်အရန်ပစ္စည်းများ။

(ဂဂ) **ဦးစားပေး(၃)။** ရုံးအသုံးအဆောင်ပစ္စည်းများ၊ ပရိဘောဂများနှင့် စက်ကိရိယာများ။

၁၀။ **အရေးကြီးချိန်။** မီးဘေးအန္တရာယ်ကျရောက်ချိန်တွင် အရေးပေါ်အချိန်၌ ဖွဲ့စည်းတာဝန် ပေးထားသောအဖွဲ့များအတိုင်း ဟန်ချက်ညီညီဖြင့် ဆောင်ရွက်သွားရမည်ဖြစ်ပါသည်။

အုပ်ချုပ်မှု

၁၁။ ရေ။ အောက်ပါအတိုင်း ဆောင်ရွက်ထားရှိပါသည်-

(က) အချက်အချာကျသည့်နေရာများဖြစ်သည့် ပစ္စည်းသိုလှောင်ရုံများ၊ လျှပ်စစ်ဌာန၊ ဒဲမ်ထောင် သည့်လိုင်းများအတွင်း သတ်မှတ်ထားသောနေရာများနှင့် ရေတိုင်ကီ၊ ရေကန်များတွင် ရေအပြည့်ရှိနေစေရန် ဆောင်ရွက်ထားပါမည်။

၁၂။ **မီးချိတ်၊မီးကပ်။** စက်မှုအဆောင်များ၏ဘေးတွင် မီးချိတ်၊မီးကပ်များ သတ်မှတ်ထားသည့် အတိုင်း ဆောင်ရွက်သွားမည်ဖြစ်သည်။

၁၃။ **သဲ။** သတ်မှတ်ထားသည့်အတိုင်း စုပုံထားရှိပါမည်။

၁၄။ **ရေပုံး။** မီးသတ်ပွိုင့်များတွင်ထားရှိသော ရေပုံးများအား စနစ်တကျချိတ်ဆွဲထားပြီး အခြား မည်သည့်အကြောင်းနှင့်မျှ ယူဆောင်အသုံးမပြုရန် ကြပ်မတ်ဆောင်ရွက်ပါမည်။

၁၅။ **သံချောင်း။** အရေးပေါ်မီးလှန့်သံချောင်းကို အသုံးပြုနိုင်ရန်အတွက် ဂိတ်ကင်းများတွင် စနစ်တကျထားရှိပါမည်။

**ဆက်သွယ်ရေး**

၁၆။ **မီးသတ်ငုတ်။** မီးသတ်ငုတ်(Hydrant)များ ဌာနကြီး(၅)ဌာနဖြစ်သော ခွဲစက်ပတ္တား၊ ကုန်ကြမ်း ကြိတ်ဌာန၊ မီးသင်းဖိုဌာန၊ ကုန်ချောကြိတ်ဌာန၊ နည်းစဉ်ဌာနများတွင် တပ်ဆင်ထားရှိမည်ဖြစ်ပြီး မီးသတ် ငုတ်များမှ တစ်ဆင့်ရေအလွယ်တကူ တပ်ဆင်သုံးစွဲမည်ဖြစ်ပါသည်။

၁၇။ **မီးသတ်ဆေးဗူး။** ။ ဆင်မင်း(၃)အထက်ဖော်ပြပါဌာနကြီး(၅)ဌာနနေရာတွင် ထားရှိမည်ဖြစ်ပါသည်။

၁၈။ **ဆက်သွယ်ရေး**

(က) **အထက်ဌာနများ။** အထက်ဌာနများသို့ တယ်လီဖုန်းဖြင့် ဆက်သွယ်တင်ပြပါမည်။

(ခ) **စက်ရုံအတွင်း။** လမ်းလျှောက်စကားပြောစက်၊ စက်ရုံတွင် တပ်ဆင်ထားသော တယ်လီဖုန်းဖြင့် ဆက်သွယ်ပါမည်။

(ဂ) **သက်ဆိုင်ရာဌာနများ။** သက်ဆိုင်ရာဌာနများသို့ တယ်လီဖုန်းဖြင့် ဆက်သွယ်အကူအညီတောင်းခံပါမည်။

စီမံကိန်းတာဝန်ခံ
ဆင်မင်း(၃)ဘိလပ်မြေစက်ရုံစီမံကိန်း

လက်မှတ်ရေးထိုးချိန် ( ၁၆:၀၀ )နာရီ
စာအမှတ်။ ၀၀၉ / ထွေ-စီ / ဆင်မင်း / ဦးပိုင်
ရက်စွဲ ။ ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ ၂ ရက်

ဖြန့်ဝေခြင်း
စက်ရုံမှူးကြီးရုံး၊ ဆင်မင်းဘိလပ်မြေစက်ရုံ
ဆင်မင်း(၁)စက်ရုံ
ဆင်မင်း(၂)စက်ရုံ
ဆဒ္ဒန်ဘိလပ်မြေစက်အရန်ပစ္စည်းထုတ်လုပ်ရေးစက်ရုံ
တော်ဝင်ပလတ်စတစ်ရက်ထည်အိတ်စက်ရုံ



# မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

## ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ

အကြောင်းအရာ။ လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းများ
သက်သာချောင်ချိရေး စီမံချက်

နေရာ။ ကျောက်ဆည်မြို့နယ်။

ရက်စွဲ။ ၄. ၁. ၂၀၁၃ ။

A\KAA\Form

## အမှတ်(၃)ဆင်မင်းဘိလပ်မြေစက်ရုံ
## လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများသက်သာချောင်ချိရေး စီမံချက်

နိဒါန်း

၁။ ဆင်မင်းဘိလပ်မြေစက်ရုံ (ဆင်မင်း ၁ စက်ရုံ ၊ ဆင်မင်း ၂ စက်ရုံ)နှင့် ခြံစည်းရိုးဝင်းအတွင်းတည်ဆောက်ထားရှိသော ဆင်မင်း(၃)ဘိလပ်မြေစက်ရုံတွင် လုပ်ငန်းခွင်ဝင်ရောက်လုပ်ကိုင်လျက်ရှိသော ဝန်ထမ်းများ အလုပ်ခွင်သာယာရေးနှင့်သက်သာချောင်ချိရေး ကောင်းမွန်စွာဆောင်ရွက်ပေးနိုင်ရေးအတွက် စီမံချက်ရေးဆွဲဆောင်ရွက်ခြင်းဖြစ်ပါသည်။

ရည်ရွယ်ချက်

၂။ စက်ရုံလုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများသက်သာချောင်ချိရေးအတွက် ရည်ရွယ်ဆောင်ရွက်ပါသည်

၃။ **အကြမ်းမျဉ်းစီမံချက်** ။ အောက်ပါအတိုင်းဆောင်ရွက်ပါမည်-

(က) လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းများအလုပ်ခွင်ပျော်ရွှင်ရန်ဆောင်ရွက်ခြင်း

(ခ) ဝန်ထမ်းများနေထိုင်မှုနှင့် မိသားစုသက်သာချောင်ချိရေးဆောင်ရွက်ခြင်း

၄။ **အသေးစိတ်စီမံချက်** ။ အောက်ပါအတိုင်းဆောင်ရွက်ပါမည်-

(က) လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းများအလုပ်ခွင်ပျော်ရွှင်ရန်ဆောင်ရွက်ခြင်း

(၁) **ဝန်ထမ်းများသတ်မှတ်လစာနှုန်းပြည့်ဝစွာရရှိရေးဆောင်ရွက်ခြင်း**

(ကက) ဆင်မင်းဘိလပ်မြေစက်ရုံ(ဆင်မင်း ၁/၂)ဝန်ထမ်းများကဲ့သို့ အနိမ့်ဆုံးလစာ ၄၁၀၀၀ိ/-၊ စားစရိတ်အဖြစ်အလုပ်ဆင်းနေ့စဉ် ၁၅၀ိ/-နှုန်းဖြင့် တစ်လရက်(၂၀) အတွက် ၃၀၀၀ိ/-၊ စုစုပေါင်းပျမ်းမျှလစာ၇၁၀၀၀ိ/-မှ အဆင့်သင့်တိုးမြှင့်ရာထူးပေါ် အခြေခံ၍ လစာများလကုန်ရက်တွင် ဝန်ထမ်းများအားတိုက်ရိုက် ထုတ်ပေးပါမည်။

(ခခ) ဝန်ထမ်းများလစာနှင့် သာရေးနာရေး၊ သက်သာချောင်ချိမှုအတွက် လစာမှဖြတ်တောက်ရန်ရှိပါက ဝန်ထမ်းများအားကြိုတင်အသိပေးပြီးမှသာ ဖြတ်တောက်ဆောင်ရွက်ခြင်းပြုမည်ဖြစ်ပါသည်။

(၂) **သာရေးနာရေးခံစားခွင့်ပြုခြင်း**

(ကက) ဝန်ထမ်း(အပျို၊ လူပျို)လက်ထပ်ထိမ်းမြားပါက ဝန်ထမ်းများ၏သဘောတူညီမှုဖြင့် ဝန်ထမ်းတစ်ဦးလျှင် ၁၀ဝိ/-နှုန်းထည့်ဝင်စုဆောင်း၍ စက်ရုံမှဝန်ထမ်းရှိအင်အားအတိုင်း ထောက်ပံ့ကူညီပါမည်။

(ခခ) ဝန်ထမ်းတစ်ဦးဦးသေဆုံးလျှင်လည်းကောင်း၊ ၎င်းတို့၏ သားသမီး၊ ဇနီး၊ဖခင်၊ မိခင် တစ်ဦးဦးသေဆုံးပါက ဝန်ထမ်းများ၏သဘောတူညီချက်ဖြင့် ဝန်ထမ်းတစ်ဦးလျှင် ၂၀ဝိ/-နှုန်းထည့်ဝင်၍ စက်ရုံမှဝန်ထမ်းရှိအင်အားအတိုင်း ကြိုတင်ထောက်ပံ့ကူညီပါမည်။

(ဂဂ) ဝန်ထမ်းတစ်ဦးဦးနာမကျန်းဖြစ်၍ ဆေးရုံပြသခြင်း၊ ကုသခြင်းပြုလုပ်ပါက စက်ရုံတွင် ဆေးပေးခန်း၊ ၎င်းတို့မှတစ်ဆင့်တိုက်နယ်ဆေးရုံ၊ အလုပ်သမားဆေးရုံများသို့ အဆင့်ဆင့်ပြသ၍ ဆေးရုံတက်သည်ဖြစ်စေ၊ ဆေးကုသမှုခံယူသည်ဖြစ်စေ ကုန်ကျမှုအား စက်ရုံမှအကုန်ကျခံကုသပေးသည့်အပြင် လူမှုဖူလုံရေးစည်းမျဉ်းစည်းကမ်းအရ အလုပ်သမားဆေးရုံတွင်လည်း အခမဲ့တက်ရောက်ကုသမှုဆောင်ရွက်မည်ဖြစ်ပါသည်။

(၃) **အိုနာစာစုဆောင်းခြင်း**

ဝန်ထမ်းများလစာ၏ ၁၅% အားလစဉ်စုဆောင်းခွင့်ရှိပြီး အငြိမ်းစား/နုတ်ထွက်ခွင့် ရရှိ၍ ပြန်လည်ထုတ်ယူသည့်အခါ အပြစ်ရှိထုတ်ပယ်ဝန်ထမ်းမှလွဲ၍ စက်ရုံမှယပ်ဆောင်းငွေ ၁၅%၊ စုစုပေါင်း ၃၀% နှင့် ဘဏ်တိုးရငွေကို ထုတ်ပေးမည်ဖြစ်ပါသည်။

(၄) **ဝန်ထမ်းများသက်သာချောင်ချိရေးအတွက် ငွေချေးငှါးခြင်း**

(ကက) ဝန်ထမ်းတစ်ဦးဦးအရေးပေါ် ငွေလိုအပ်ပါက ဝန်ထမ်း(၂)ဦးမှသက်သေပြု၍ လစာ၏ (၂)ဆအား စက်ရုံမှချေးငှါးပေးပြီး အတိုး ၃/-တိုးနှုန်းဖြင့် (၆)လကြာသိုင်းငံ့ချေးငှါးခြင်းပြုပါမည်။

(ခခ) ဆင်မင်း(၁/၂)ဝန်ထမ်းများသက်သာချောင်ချိမှုအတိုင်း ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၅) **ရက်မပျက် ဆုပေးမှုဆောင်ရွက်ပေးခြင်း**

(ကက) စက်ရုံဝန်ထမ်းများအလုပ်ဆင်းရာတွင် လစဉ်အကျိုးခံစားခွင့်မယူဘဲ ပျက်ရက်မရှိ အလုပ်ဆင်းပါကငင်းဝန်ထမ်းအား စက်ရုံအပြတ်ငွေရရှိသည့်လတွင် ဝန်ထမ်း(၁)ဦး ၃၀၀၀/-နှုန်းဖြင့် ဆုချီးမြှင့်မည်ဖြစ်ပါသည်။ ၎င်းနေ့တွင် အဆိုပြိုင်ပွဲဆုချီးမြှင့်ခြင်းများ တပါတည်းကျင်းပဆောင်ရွက်ပေးမည်ဖြစ်ပါသည်။

(ခခ) ၎င်းအပြင် ရက်မပျက်ဆုရရှိသူ၊ လစဉ်ဆုရဝန်ထမ်းများ (၁)နှစ်ပြည့်မြောက်၍ ရက်မပျက်ဆု(၁၂)လအထိ ရရှိပါက ဇန်နဝါရီလ(၄)ရက် လွတ်လပ်ရေးနေ့တွင် အနည်းဆုံးတန်ဘိုးငွေ (၆၀၀၀/-) မှ အမြင့်ဆုံးဆုမဲတန်ဘိုးငွေ (၈၀၀၀၀၀/-) (ရှစ်သိန်း)အထိ ဗလာမပါဆုမဲများပြုလုပ်၍ ရက်မပျက်သူများအား ထပ်မံဆုချီးမြှင့်မှု ပြုလုပ်ဆောင်ရွက်ပေးမည်ဖြစ်ပါသည်။

(၆) **ဝန်ထမ်းများဝတ်စုံ ထုတ်ပေးမှုဆောင်ရွက်ခြင်း**

(ကက) စက်ရုံဝန်ထမ်းအဖြစ် အလုပ်ခွင်စတင်ဝင်ရောက်စဉ် ဝန်ထမ်းအသစ်များအား ယူနီဖောင်း(၂)စုံ၊ ဦးထုပ်(ဖိုင်ဘာ)တစ်လုံး စက်ရုံမှထုတ်ပေးမည်ဖြစ်ပြီး နှစ်စဉ်ဝန်ထမ်းများအတွက် အသစ်(၁)စုံနှုန်း ထောက်ပံ့ချုပ်ပေးသွားမည်ဖြစ်ပါသည်။

(ခခ) စက်ပြင်ဝန်ထမ်းများအတွက် သီးခြားစက်ရုံအလုပ်ခွင်တွင် ဝတ်စုံအားထပ်မံထုတ်ပေးခြင်း၊ ဦးထုပ်၊ ဖိနပ်၊ လက်အိတ်များထပ်မံထုတ်ပေးခြင်းများ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၇) **ဝန်ထမ်းများလအလိုက် ပျော်ပွဲရွှင်ပွဲကျင်းပပြုလုပ်ခြင်း**

(ကက) ဝန်ထမ်းများအလုပ်ခွင်ဝင်ရောက်တာဝန်ထမ်းဆောင်စဉ် စိတ်ပျော်ရွှင်မှုရှိနိုင်ရေးအတွက် လအလိုက်အောက်ပါပျော်ရွှင်ပွဲ၊ အားကစားပြိုင်ပွဲများဆောင်ရွက် မည်ဖြစ်ပါသည်-

(၁၁) ဇန်နဝါရီလ ။ လွတ်လပ်ရေးအားကစားပြိုင်ပွဲကျင်းပပြုလုပ်ခြင်း

(၂၂) ဖေဖော်ဝါရီလ။ ထမနဲထိုးပြိုင်ပွဲကျင်းပဆောင်ရွက်ခြင်း။

(၃၃) ဧပြီလ ။ သင်္ကြန်ပွဲ၊ အဆိုအကပြိုင်ပွဲများ ကျင်းပဆောင်ရွက်ခြင်း

(၄၄) ဇွန်လ ။ ဘောလီဘော(ကျား)ပြိုင်ပွဲကျင်းပခြင်း

(၅၅) ဇူလိုင်လ ။ ဘောလီဘော(မ)ပြိုင်ပွဲကျင်းပခြင်း

(၆၆) ဩဂုတ်လ ။ ဘောလုံး(ကျား)ပြိုင်ပွဲကျင်းပခြင်း

(၇၇) အောက်တိုဘာလ။ ပိုက်ကျော်ခြင်း(ကျား)ပြိုင်ပွဲကျင်းပခြင်း

(၈၈) ဒီဇင်ဘာလ။ အားကစားလ လူထုလမ်းလျှောက်ပွဲကျင်းပပြုလုပ်ခြင်း

(ခခ) ဝန်ထမ်းများအား အထက်ဖော်ပြပါ အားကစားလရာသီအတိုင်း ကျင်းပပြုလုပ်ပေးမည်ဖြစ်သည့်အပြင် ဘာသာရေးအတွက် ဝါဆိုသင်္ကန်းကပ်လှူခြင်း၊ ကထိန်သင်္ကန်းကပ်လှူခြင်း၊ အခြားကုသိုလ်ကောင်းမှုဆောင်ရွက်ခြင်းများ ပြုလုပ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၈) ဝန်ထမ်းများစားသောက်ရေးစီစဉ်ဆောင်ရွက်ခြင်း

(ကက) ဝန်ထမ်းများအား နေ့စဉ်(အလုပ်ဆင်းရက်)စားစရိတ်ထောက်ပံ့မှုပြုလုပ်သည့်အပြင် အလုပ်ဆင်းချိန်အတွင်း နံနက်(သို့)ညနေစာအား စက်ရုံမှထမင်းဟင်း(အစုံ) စားသောက်နိုင်ရေးစီစဉ်ဆောင်ရွက်ပေးမည်ဖြစ်ပြီး ဟာဝန်ရှိဝန်ထမ်းအကြီးအကဲဖြစ်သော စက်ရုံမှူးဦးဆောင်သော်အဖွဲ့ဖြင့် ကြပ်မတ်စစ်ဆေးကျွေးမွေးသွားမည်ဖြစ်ပါသည်။

(ခခ) ဆင်မင်း(၁/၂)ဝန်ထမ်းများစားသောက်ရေးစီစဉ်ဆောင်ရွက်သည့်အတိုင်း ဆင်မင်း(၃)ဝန်ထမ်းများအား ကျွေးမွေးဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ခ) ဝန်ထမ်းများနေထိုင်မှုနှင့် မိသားစုသက်သာချောင်ချိရေးဆောင်ရွက်ခြင်း

(၁) စာကြည့်တိုက်ဖွင့်လှစ်ဆောင်ရွက်ခြင်း

(ကက) ဆင်မင်း(၃)ဝန်ထမ်းများအလုပ်အားလပ်ချိန်အတွင်း စာပေဗဟုသုတရရှိရေးအတွက် ဝန်ထမ်းအိမ်ရာအနီးတွင် စာကြည့်တိုက်ဖွင့်လှစ်ထားရှိပြီး အထွေထွေဗဟုသုတ၊ ရသမျိုးစုံ၊ မဂ္ဂဇင်း၊ ဝတ္ထု၊ သတင်းစာ၊ ဂျာနယ်တို့အား နေ့စဉ်ဖွင့်လှစ်ထားရှိပြီးနေထိုင်ရာအဆောင်လိုင်းခန်းထိ ဖတ်ရှုနိုင်ရေးငှားရမ်းပေးလျှက်ရှိပါသည်။

(ခခ) လုပ်ငန်းခွင်ဗဟုသုတရရှိရေးအတွက် လိုအပ်သောစာအုပ်၊ စာတမ်းအား စီမံရေးဌာနမှ ဦးစီးကွပ်ကဲ၍ ရုံးကြီးနေရာတွင် စနစ်တကျငှားရမ်းဖတ်ရှုနိုင်ရေးစီစဉ်ဆောင်ရွက်ပေးလျှက်ရှိပါသည်။

(၂) သက်သာဆိုင်ဖွင့်လှစ်ရောင်းချဆောင်ရွက်ခြင်း

(ကက) ဝန်ထမ်းများနှင့် ဝန်ထမ်းမိသားစုများအတွက် မဖြစ်မနေလိုအပ်သော ပစ္စည်းများအားကျောက်ဆည်မြို့ပေါ် ဈေးနှုန်းထက်မများစေဘဲ အလွယ်တကူဝယ်ယူရရှိစေရန်အတွက် ဝန်ထမ်းအိမ်ရာအတွင်းတွင် သက်သာဆိုင်(၁)ဆိုင်အား ဖွင့်လှစ်ထားရှိခဲ့ပြီးဖြစ်ပါသည်။ ရင်းနှီးမတည်ငွေ ၂၀၅၂၃၅၀/-ဖြင့် (၂၄. ၁၁. ၂၀၀၅)ရက်နေ့မှစ၍စတင်ဖွင့်လှစ်ရောင်းချနိုင်ခဲ့ပြီးဖြစ်ပါသည်။

(ခခ) ဆိုင်တွင်ရောင်းချပစ္စည်းများဖြစ်သော အခြေခံစားကုန်၊ လူသုံးကုန်၊ ဗာရေးကိရိယာ၊ တိုင်းရင်းဆေး၊ နိုင်ငံခြားဆေး၊ အလှကုန်၊ အဝတ်အထည်၊ လျှပ်စစ်ပစ္စည်း စုစုပေါင်း ပစ္စည်းအမျိုးအမည် (၄၀၄)မျိုးအား ဆိုင်တင်ရောင်းချပေးပြီး တစ်ပတ်လျှင် တနင်္လာနေ့ ရက်တစ်ရက်မှလွဲ၍ နံနက်(၈၀၀)နာရီမှ ညနေ(၁၈၀၀)နာရီအထိ ဝန်ထမ်းနှင့်မိသားစုများဝယ်ယူစားသုံးနိုင်မည်ဖြစ်ပါသည်။

(၃) လိုင်းခန်းနေရာချထားဆောင်ရွက်ခြင်း

(ကက) ဆင်မင်းဘိလပ်မြေစက်ရုံ (ဆင်မင်း-၁/၂)၊ ဆဒ္ဒန်စက်ရုံ၊ ပေါ်ဝင်စက်ရုံနှင့် ဆင်မင်း(၃)စက်ရုံ ဝန်ထမ်းလေပိုး(အရာရှိ/အရာထမ်း)အတွက် (၁၆)ခန်းတွဲပါဝင်

သောအဆောင်(၂)ဆောင်၊ အခြားအဆင့်ဝန်ထမ်းများအတွက် ဝန်ထမ်း(၅၀)ဆံ့ အဆောင်သစ်(၂)လုံးအား ဆောက်လုပ်ထားရှိပြီး ဝန်ထမ်း(အပျို)များအတွက် (၅)ခန်းတွဲအပျိုဆောင်(၄)လုံးအား လည်းကောင်းဆောက်လုပ်ထားရှိပြီးဖြစ်ပါသည်။

(ခ ခ) စက်ရုံမှူးအပါအဝင် အရာရှိမိသားစု ဝန်ထမ်းနေထိုင်နိုင်ရေးအတွက် အရာရှိကြီးအိမ်ရာ (၁၃)လုံး၊ အရာရှိငယ်အိမ်ရာ (၂၄)လုံးအားလည်းကောင်း ဆောက်လုပ်ထားရှိပြီးဖြစ်ပါသည်။

(ဂ ဂ) ဝန်ထမ်း(အခြားဆင့်)များမိသားစုများနေထိုင်ရန်အတွက် (၆)ခန်းတွဲအိမ်ရာ (၃၂)ဆောင်နှင့် (၁၀)ခန်းတွဲ (၆)ဆောင်အား ဆောက်လုပ်ထားရှိပြီးဖြစ်ပါသည်။

(၄) **ပညာရေးပိုင်းဆိုင်ရာ (နေ့ကလေးထိန်း၊ မူကြို၊ မူလတန်းကျောင်း)ဖွင့်လှစ်သင်ကြားပေးခြင်း**

(ကက) စက်ရုံဝန်ထမ်းများ လုပ်ငန်းတာဝန်ထမ်းဆောင်နေချိန်အတွင်း သားသမီးများစနစ်တကျထိမ်းသိမ်းစောင့်ရှောက်နိုင်ရေးအတွက် စက်ရုံဧရိယာအတွင်း ဝန်ထမ်းအပို့ဆောင်အနီးတွင် နေ့ကလေးထိန်း/မူကြိုကျောင်း(၁)ကျောင်းအား (၆. ၉. ၂၀၀၈) ရက်နေ့မှ စတင်၍ဖွင့်လှစ်ထားရှိပြီးဖြစ်ပါသည်။

(ခ ခ) ဝန်ထမ်းမိသားစုများ၏ မူလတန်းအဆင့်ကျောင်းသားများပညာသင်ကြားမှု အဆင်ပြေစေရန်အတွက် စက်ရုံနယ်မြေဧရိယာအတွင်း တွဲဘက်မူလတန်းကျောင်း(၁)ကျောင်းအား (၈. ၉. ၂၀၀၈)ရက်နေ့တွင် စတင်ဖွင့်လှစ်ထားရှိနိုင်ခဲ့ပြီး (၁၆. ၉. ၂၀၁၂)ရက်နေ့တွင် မူလတန်းကျောင်းအဆင့်ထိ တိုးမြှင့်ရရှိပြီး ဖြစ်ပါသည်။ ယခုအခါကျောင်းအုပ်ဆရာမအပါအဝင် ဆရာမ(၄)ဦး၊ ကျောင်းသား(၁၀၄)ဦးဖြင့် ကျောင်းဖွင့်လှစ်သင်ကြားပေးလျှက်ရှိပါသည်။

(ဂ ဂ) မူလတန်းနှင့်အထက် ကျောင်းသား/သူများအား စက်ရုံနှင့်(၄)မိုင်ခန့်အကွာ အ. ထ. က(၄)ကျောင်းသို့ နေ့စဉ်ကျောင်းပို့/ကြို ယာဉ်(၁)စီးစီစဉ်ဆောင်ရွက်၍ ပညာသင်ကြားပေးလျှက်ရှိပါသည်။

(၅) **ဝန်ထမ်းနှင့် မိသားစုများအား သက်သာချောင်ချိရေးဆောင်ရွက်ပေးခြင်း (၅ ရက်တစ်ဈေး စက်ရုံမှဖွင့်လှစ်ဆောင်ရွက်ခြင်း)**

(ကက) ဝန်ထမ်းများနှင့် အိမ်ထောင်သည်မိသားစု စက်ရုံအနီးတွင် လိုအပ်သောအိမ်ထောင်၊ အစားအစာပစ္စည်းများလွယ်ကူစွာဝယ်ယူနိုင်ရေးအတွက် (၂၉. ၉. ၁၂) ရက်နေ့မှစတင်၍မြို့နယ်စည်ပင်သာယာနှင့် ညှိနှိုင်း၍ အခွန်လွတ်ဈေးအဖြစ်ဖွင့်လှစ်ဆောင်ရွက်ပေးနိုင်ခဲ့ပါသည်။

(ခ ခ) မိသားစုများ၏ လိုအပ်ချက်ဖြစ်သော အမဲ၊ ဝက်၊ ကြက်၊ ငါး၊ ကုန်စိမ်း၊ ကုန်ခြောက် စသည့်အမျိုးအမည်စုံလင်စွာဖြင့် လိုအပ်သလိုဝယ်ယူစားသုံးနိုင်ရန် စီစဉ်ဆောင်ရွက်ပေးနိုင်ခဲ့ပါသည်။

(ဂ ဂ) ဝန်ထမ်းများနှင့် မိသားစုများ(၅)ရက်တစ်ဈေးတွင် ဝယ်ယူနိုင်သည့်အပြင် ယခင် (၅)ရက်တစ်ဈေး(ဆင်မင်းဈေး)မဖွင့်မီကာလမှပင် ဗုဒ္ဓဟူးနေ့တွင် ဈေးကား(၁)စီးနှင့် တနင်္ဂနွေနေ့ ဈေးကား(၂)စီး ပုံမှန်စက်ရုံမှဈေးကားစီစဉ်ဆောင်ရွက်ပေးလျှက်ရှိပါသည်။

AKAAForm

(၆) **ဘာသာရေးဆောင်ရွက်ခြင်း**

(ကက) စက်ရုံတွင် လစဉ်၊ နေ့စဉ်အခါကြီး ဘာသာရေးရက်များတွင် ဝါဆိုသင်္ကန်းကပ်ခြင်း၊ စက်ရုံတွင် ကထိန်ခင်းခြင်း၊ မြို့နယ်အဆင့် စက်ရုံမှကထိန်လှူဒါန်းအသက်ကပ်ခြင်း၊ နှစ်စဉ်မပျက်မကွက်ဆောင်ရွက်လျှက်ရှိပါသည်။

(ခခ) ဘာသာရေးဆိုင်ရာ ကိစ္စရပ်များစဉ်ဆက်မပြတ်ဆောင်ရွက်နိုင်ရေးအတွက် စက်ရုံတွင်း စက်ရုံမှူးများဦးစီးဦးဆောင်ပါဝင်သော ဇွန်ဖြူပွင့်ဘာသာရေးအသင်းဖွဲ့စည်းထားရှိပြီး အပတ်စဉ် တနင်္ဂနွေနေ့တိုင်း၊ ဆွမ်းလောင်းခြင်း၊ ဝတ်ပြုရွတ်ဆိုခြင်း၊ အနီးပတ်ဝန်းကျင်ဘုန်းကြီးကျောင်းများသို့ ဆွမ်းပို့လှူဒါန်းခြင်း၊ တရားပွဲများကျင်းပပြုလုပ်ခြင်းဆောင်ရွက်ပါသည်။

(ဂဂ) ဘာသာရေးဝတ်အသင်းများ ဖွဲ့စည်းထားရှိပြီး ဝန်ထမ်းအပို့ဆောင်ဒနီးတွင် ဓမ္မာရုံခန်းမတစ်ခုထားရှိဆောင်ရွက်ပါသည်။

နိဂုံး

၅။ ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ ပါဝင်ဖွဲ့စည်းထားသော ဆင်မင်းဘိလပ်မြေစက်ရုံအနေဖြင့် ဝန်ထမ်းများလုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေးကောင်းမွန်စေရန်အတွက် စနစ်တကျပြင်ဆင်ဆောင်ရွက်ထားရှိလျှက်ရှိပါသည်။ ထို့ကြောင့် ဝန်ထမ်းများအနေဖြင့် လုပ်ငန်းခွင်အတွင်း အထက်အောက်ရိုသေလေးစားခြင်း၊ စည်းကမ်းစနစ်တကျလိုက်နာဆောင်ရွက်ခြင်း၊ ပတ်ဝန်းကျင်ကျေးရွာလူထုနှင့် စည်းရုံးရေး၊ ဆက်ဆံရေးကောင်းမွန်တိုးတက်လျှက်ရှိသည့်အပြင် ကောင်းမွန်သောအစဉ်အလာများဆက်လက်ထိန်းသိမ်းနိုင်ရေး စီစဉ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(လက်မှတ်)

စီမံကိန်းတာဝန်ခံ
ဆင်မင်း(၃)ဘိလပ်မြေစက်ရုံစီမံကိန်း

လက်မှတ်ရေးထိုးချိန် ( ၁၆:၀၀ )နာရီ
စာအမှတ်၊ ၁၁၀/ထွေ-စီ/ဆင်မင်း/ဦးပိုင်
ရက်စွဲ ၊၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ ၄ ရက်

ဖြန့်ဝေခြင်း
စက်ရုံမှူးကြီးရုံး၊ ဆင်မင်းဘိလပ်မြေစက်ရုံ
ဆင်မင်း(၁)စက်ရုံ
ဆင်မင်း(၂)စက်ရုံ
ဆဒ္ဒန်ဘိလပ်မြေစက်အရန်ပစ္စည်းထုတ်လုပ်ရေးစက်ရုံ
တော်ဝင်ပလတ်စတစ်ရက်ထည်အိတ်စက်ရုံ



ဆင်မင်း(၃)ဘိလပ်မြေစက်ရုံစီမံကိန်းမှ သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန်
ဆောင်ရွက်ထားရှိမှု အစီအစဉ်

၁။ ဆင်မင်း(၃)ဘိလပ်မြေစက်ရုံစီမံကိန်းအား တရုတ်နိုင်ငံ Mianyang Hi-Wish Trading Co., Ltd; မှ တာဝန်ယူတည်ဆောက်ပါသည်။ ၎င်းကုမ္ပဏီအနေနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေး နိုင်ငံတကာစံနှုန်းများ China Standard များနှင့်အညီ လိုက်နာဆောင်ရွက်လျက်ရှိပါသည်။ ဆင်မင်း(၃)ဘိလပ်မြေစီမံကိန်းအား သဘာဝ ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန်အောက်ပါအတိုင်း ဆောင်ရွက်လျက်ရှိပါသည်-

(က) **လေထုညစ်ညမ်းမှုမရှိစေရေးဆောင်ရွက်မှု။** စက်ရုံလည်ပတ်ထုတ်လုပ်ရာမှ ထွက်ရှိလာသော Exhaust Gas များအား ခေါင်းတိုင်မှတဆင့် ပြင်ပလေထုအတွင်း ထုတ်လွှတ်ရမှုရှိပါသည်။ စွန့်ပစ်ဓာတ်ငွေ့ သည် လေထဲတွင် ဆာလဖါဒိုင်အောက်ဆိုဒ် 0.1PPM (Parts Per Million)ထက်များလျှင်သော်လည်းကောင်း၊ စွန့်ပစ်ဓါတ်ငွေ့သည် လေထဲတွင် 0.04PPM ထက်များလျှင်သော်လည်းကောင်း၊ လေထဲတွင် Suspended Soild 0.02mg/m³ ထက်များလျှင်သော်လည်းကောင်း၊ မြေကြီးပေါ်သို့ ပြန်ကျသောဖုန်မှုန့်မှာ တစ်လလျှင် စတုရန်းတစ်ကီလိုမီတာအတွင်း(၁၀)တန်ထက် များပြားစွာကျရောက်ခဲ့လျှင်လည်းကောင်း၊ သဘာဝပတ်ဝန်းကျင်ကို ထိခိုက်စေ နိုင်ပါသည်။ သို့ပါ၍ ထိုသို့ထိခိုက်ခြင်းမဖြစ်ပေါ်စေရန် အောက်ပါအတိုင်း စီမံထားရှိလုပ်ဆောင်နေပါသည်-

(၁) **အရေးကြီးသောနေရာတိုင်းတွင် Electrostatic Precipitator** များထားရှိခြင်း။ ဆင်မင်း(၃) ဘိလပ်မြေစက်ရုံစီမံကိန်းတွင် အရေးပါသောပင်မခေါင်းတိုင်နှင့် Clinker Electrostatic Precipitation အထွက်ခေါင်းတိုင်တို့မှ Exhaust Gas ထုတ်လွှတ်မီ၊ Electrostatic Precipitator ထားရှိ၍ အမှုန်များအား ဖမ်းယူစုဆောင်းပေးခြင်းဖြင့် Exhuast Gas ၏လေထဲတွင်အမှုန်ပါဝင်မှုလျော့ချပေးနိုင်ပါသည်။

(၂) **အမှုန်ထွက်နိုင်သောနေရာတိုင်းတွင် Bag Filter နှင့် Fan** ထားရှိခြင်း။နည်းစဉ်အရလုပ်ငန်းလုပ်ဆောင်စဉ် အမှုန်ထွက်ရှိနိုင်သည့်နေရာတိုင်းမှ အမှုန်များကို Fan ဖြင့် စုပ်ယူ၍ Bag Filter တွင် အမှုန်များဖမ်းယူကာ အမှုန်ကင်းစင်သောဓါတ်ငွေ့ကို ပြင်ပသို့ ထုတ်ပေးခြင်းဖြစ်ပါသည်။ ဤနည်းဖြင့် လုပ်ငန်းခွင်ထိခိုက်မှုမရှိစေရေး ဆောင်ရွက်ထားရှိပါသည်။

(၃) **မြင့်မားသောမီးခိုးတိုင်များထားရှိခြင်း။** ခေါင်းတိုင်မှထွက်ရှိမည့် Exhaust Gas များသည် အနည်းငယ်ပူနေသေးသည့်ပြင် သတ်မှတ်အတိုင်းအတာထက်မပိုသော အမှုန်အနည်းငယ်ရှိနေသေးသဖြင့် ပူ၍အမှုန်အနည်းငယ်ရှိနိုင်သည့်မီးခိုးခေါင်းတိုင်များအား ဤစီမံကိန်းတွင် မြင့်မားစွာတည်ဆောက်ထားရှိပါသည်။

(၄) **စက်ရုံစီမံကိန်းဧရိယာအတွင်း အရွက်ကြွေမှုအနည်းဆုံးအရိပ်ရပင်များစိုက်ပျိုးခြင်း။** ရာသီဥတုပြောင်းလဲမှုကြောင့်သော်လည်းကောင်း၊ စက်ရုံ၏ဖုန်မှုန့်ပါဖြစ်ပေါ်ပါဝင်သော မှုမမှန်လည်ပတ်မှုကြောင့်သော်လည်းကောင်း၊ ပုံမှန်အနေအထားထက်ပိုမိုများပြားသော အမှုန်များပတ်ဝန်းကျင်တွင် ကျရောက်တတ်ပါသည်။ ထိုသို့ဖြစ်ပါက ပတ်ဝန်းကျင်ကို

D/aaa/TT D TT

ထိခိုက်မှုနည်းပါးစေရန်၊ အရွက်ကြွေကျမှုနည်းပါးသော အရိပ်ရသစ်ပင်များအား စီမံကိန်း နယ်မြေတွင် တစ်အုပ်တစ်မစိုက်ပျိုးရမည်ဖြစ်ပါသည်။ စီမံကိန်းနယ်မြေတွင် စိုက်ပျိုးသွားရန် လျာထားပြီးဖြစ်၍ ၂၀၁၃-၂၀၁၄ ဘဏ္ဍာနှစ်အတွင်းမိုးရာသီတွင် စတင်စိုက်ပျိုးနိုင်ရန် ပျိုးပင် များစုဆောင်းထားပြီး ဖြစ်ပါသည်။

(ခ) **စွန့်ပစ်ရေ ညစ်ညမ်းမှုမရှိစေရေးဆောင်ရွက်မှု** ။ စွန့်ပစ်ရေကြောင့် ပတ်ဝန်းကျင်ညစ်ညမ်း မှုမရှိစေရေးအတွက် China Mianyang Hi-Wish Trading Company Limited အနေနှင့် China Standard နှင့်အညီ Treatment များလုပ်ဆောင်သွားမည်ဖြစ်ကြောင်း သိရပါသည်။ စွန့်ပစ်ရေညစ်ညမ်းစေရာတွင် ကက်ဒမီယမ် (Cd) ပါဝင်မှု 0.3 mg/l ထက်များခြင်း၊ ခဲ (Pb) ပါဝင်မှု 1.0 mg/l ထက်များခြင်း၊ ပြဒါး (Hg) ပါဝင်မှု 0.005mg/l ထက်များခြင်း၊ ဓါတုဗေဒဆိုင် ရာအောက်ဆီဂျင်လိုအပ်မှု 160mg/l ထက်များခြင်း၊ အနည်အနှစ်များ 200 mg/l ထက်များခြင်း၊ တွင်းထွက်ဆီ 5 mg/l ထက်များခြင်းတို့ကြောင့်ဖြစ်ပြီး ပင်လယ်သို့စွန့်ပစ်က PH 5.0-9.0 အတွင်း ရှိရန်လိုအပ်၍ မြစ်ထဲသို့စွန့်ပစ်ပါက စွန့်ပစ်ရေ PH 5.8-8.6 အတွင်းရှိရမည်ဖြစ်ပါသည်။ ဆင်မင်း(၃)ဘိလပ်မြေစက်ရုံစီမံကိန်းအနေနှင့် ဓါတုဗေဒပစ္စည်းများအသုံးမပြုရသလောက် နည်းပါး ခြင်း၊ ဓါတ်ပြုမှု ရှုပ်ထွေးခြင်းမရှိ၍စွန့်ပစ်ရေညစ်ညမ်းမှု မရှိစေရေးအောက်ပါနည်းလမ်းများအတိုင်း ဆောင်ရွက်ရန် စီမံထားရှိပါသည်-

(၁) **လေလွင့်ပြန်းတီးရေ စွန့်ပစ်မှုစနစ် (Waste Water Drainage System)** ။ ဆင်မင်း(၃)ဘိလပ်မြေစက်ရုံမှ လေလွင့်ပြန်းတီးရေ တစ်ရက်လျှင် ထုထည် 54 $m^3$ ထွက်ရှိ မည်ဖြစ်ပါသည်။ Filter နှင့် သန့်စင်မှုကိရိယာများသုံးပြီး ထွက်ရှိလာမည့်ရေတွင် ရွံ့နှစ်များ၊ ဆီများနှင့် အဆိပ်အတောက်မဖြစ်စေနိုင်သော ပစ္စည်းများပါလာတတ်ပါသည်။ ၎င်းတို့ကို အနည်ထိုင်စေပြီးမှ စွန့်ပစ်ခြင်းစနစ်ဖြစ်ပါသည်။

(၂) **ရေဆိုးရေညစ် စွန့်ပစ်သည့်စနစ် (Sewage Drainage System)** ။ ရေဆိုးရေညစ်မှာ တစ်ရက်လျှင် ရေထုထည် 108 $m^3$ ထွက်ရှိမည်ဖြစ်ပြီး ၎င်းတွင်အဓိကအားဖြင့် အော်ဂဲနစ် အညစ်အကြေးများပါဝင်ပါသည်။ China Standard အရ BOD5 = 150-250 mg/l SS = 200- 400 mg/l မှုရေဆိုးတွင်ပါဝင်နေတတ်ပါသည်။ ၎င်းရေဆိုးများအား Two Phase Bio-Chemical Treatmentနည်းအသုံးပြုသန့်စင်မည်ဖြစ်ပြီးBOD5 $\leq$ 20 mg/l, PH = 6 ~ 9, COD5 $\leq$ 100 mg/l, SS $\leq$ 70 mg/l နှင့် Petroleum Substance $\leq$ 5mg/l ထိ ကျဆင်းသွား၍ သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေနိုင်ကြောင်း သိရပါသည်။

စီမံကိန်းတာဝန်ခံ
ဆင်မင်း(၃)ဘိလပ်မြေစက်ရုံစီမံကိန်း

D/aaa/TT D/TT

# ILC: In-Line Calciner



## Special advantages

- High material and gas retention time in calciner due to its large volume and moderate swirl.
- Regulation range of up to 60% bypass of kiln gas using ILC-I version
- Well suited for low-grade fuels
- Long refractory life due to low thermal kiln load and stable kiln coating.
- Lowest NOx emission among traditional calciner kiln systems

## Features

- Normal capacity range: 1500-5000 tpd, with multiple strings > 10,000 tpd.
- Ratio of firing in calciner: 55-65%.
- Normal bypass of kiln gas: 0-30%.
- Maximum bypass of kiln gas: 0-100% using ILC-I version.
- Built-in low-NOx capabilities.
- Calcination at kiln inlet: 90-95%.




***ILC kiln system with five-stage preheater and SF Cross-Bar™ cooler***
*Typical temperatures in the system are indicated, together with the negative pressure in the exhaust gas exit, based on a system designed for minimum overall pressure drop. When designed for bypassing 30% or more of the kiln gases, the layout of the system will be slightly different, as the tertiary air duct is connected to the kiln riser duct at a point below the calciner. This system is called the ILC-I calciner system.*




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်



# ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၉၉ / ၂၀ ၁၃ ။ ၂၀ ၁၃ခုနှစ်၊ မတ် လ ၂၆ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဗိုလ်ချုပ်ဇာနည်ဝင်း

(ခ) အဘ အမည် ဗိုလ်မှူးကြီး ဝင်း(ငြိမ်း)

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ဒဂန (နိုင်) ၀၁၀၂၂၀

(ဃ) နေရပ်လိပ်စာ ပစ္စည်းဝယ်ယူမှု ညွှန်ကြားရေးမှူးရုံး၊ ရွာတော်၊ နေပြည်တော်။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း Myanma Economic Holdings Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား တစ်ရက်လျှင် တန်(၁၂၀၀)ကျ (TPD Dry) ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးရှိ မြေ(၂၅၂.၃၇)ဧက အနက် မြေ(၂၂.၂၃)ဧက

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၂၈၃၄၀.၀၀(သန်း) (ယူရို(၂၅.၆၀)သန်း အပါအဝင် စုစုပေါင်း ကျပ် နှစ်သောင်း ရှစ်ထောင် သုံးရာ့ လေးဆယ်သန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## အမိန့်ကြော်ငြာစာအမှတ်၊ ၃၃ /၂၀၁၃ (မနသ)

## ၂၀၁၃ ခုနှစ် မတ် လ ၂၉ ရက်

၁။ Myanma Economic Holdings Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးရှိ မြေ (၂၅၂.၃၇)ဧက အနက် (၂၂.၂၃)ဧက တွင် တစ်ရက်လျှင် ဘိလပ်မြေ တန်(၁၂၀၀)ကျ TPD (Dry) ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၉-၃-၂၀၁၃)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၁၃) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Myanma Economic Holdings Ltd. အား တစ်ရက်လျှင် ဘိလပ်မြေ တန်(၁၂၀၀)ကျ TPD (Dry) ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၉၉ /၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ Myanma Economic Holdings Ltd. အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ယင်းဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန် လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေ ထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤ ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ စက်ပစ္စည်း သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်း များအပေါ် တန်ဖိုးလျှော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့နှုန်း ထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင် သည့် အမှတ်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန် ပစ္စည်း၊ စက်ကိရိယာအစိတ်အပိုင်း၊ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် အကောက် ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် ဥပဒေပုဒ်မ ၁၃(ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ နှင့်ပတ်သက်၍ တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် လိုက်နာဆောင်ရွက်ရမည်။

၄။ Myanma Economic Holdings Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Myanma Economic Holdings Ltd. သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိရမည်။

၆။ Myanma Economic Holdings Ltd. သည် China Mianyang Hi-Wish Trading Co., Ltd. ထံမှ ချေးငွေရယူမည်ဟု တင်ပြထားရာ ချေးငွေရယူခြင်း ကိစ္စသည် ငွေချေးငှားသူနှင့် ချေးယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။ Myanma Economic Holdings Ltd. အနေဖြင့် အဆိုပါ ငွေချေးယူခြင်း ကိစ္စကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ဗဟိုဘဏ် နှင့် ဆက်သွယ် ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ Myanma Economic Holdings Ltd. သည် လျှပ်စစ်ဓါတ်အားရယူမှု၊ ထုတ်လုပ်မှု နည်းပညာ၊ ထုတ်လုပ်မှု အရည်အသွေး၊ Trade Mark ကုန်ပစ္စည်း အမှတ်တံဆိပ် အမည်၊ အမှတ်အသား၊ ဈေးကွက်ပိုင်းဆိုင်ရာတို့နှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ၄င်းအပြင် သက်ဆိုင်ရာ ဌာနများ၏ ညွှန်ကြားချက်များ အတိုင်း လိုက်နာဆောင်ရွက်ရမည်။

၉။ Myanma Economic Holdings Ltd. မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင် နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယား စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၀။ Myanma Economic Holdings Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ

ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၁။ Myanma Economic Holdings Ltd. သည် အဆိုပြုချက်တွင် ဝန်ခံကတိ ပြုထားသည့်အတိုင်း ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၂။ Myanma Economic Holdings Ltd. သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ Myanma Economic Holdings Ltd. မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၅။ အဆိုပြု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြု

မိန့်မှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်း စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်) နှစ် အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။



(စိုးသိန်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က) /မ- ၁၂၉၉/ ၂၀၁၃( ၄၀၆၆ )

ရက် စွဲ ၊ ၂၀၁၃ ခုနှစ် မတ် လ ၂၉ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ဆက်သွယ်ရေး၊ သတင်းအချက် အလက်နှင့် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ကျန်းမာရေးဝန်ကြီးဌာန

တိုင်းဒေသကြီးအစိုးရအဖွဲ့၊ မန္တလေးတိုင်းဒေသကြီး

ဥက္ကဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသား မှတ်ပုံတင်ရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဥက္ကဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

မန်နေးဂျင်းဒါရိုက်တာ၊ Myanma Economic Holdings Ltd.

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကဖ-၆(က)/မ-၁၂၉၉/၂၀၁၃(၃၆၂၉-၀)

ရက်စွဲ၊ ၂၀၁၃ ခုနှစ် မတ် လ ၁၅ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **Myanma Economic Holdings Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးတွင် တစ်ရက်လျှင် တန် (၁၂၀၀)ကျ TPD (Dry) ဆင်မင်း(၃)ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Myanma Economic Holdings Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးရှိ မြေ (၂၅၂.၃၇)ဧက အနက် (၂၂.၂၃)ဧကတွင် တစ်ရက်လျှင် ဘိလပ်မြေ တန်(၁၂၀၀)ကျ TPD (Dry) Add on ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကို လက်ခံရရှိခဲ့ပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်နှင့် စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့၊ စက်မှုဝန်ကြီးဌာန၊ သတ္တုတွင်းဝန်ကြီးဌာနနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ (နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် သို့မဟုတ် လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်မှု မရှိပါကြောင်း၊

(၂) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ကိုက်ညီမှု ရှိပါကြောင်း၊

(၃) ဖော်ပြပါ မြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့ အရ လက်ခံနိုင်ပါကြောင်း၊

(၄) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အကြံပြုရန် မရှိပါကြောင်း၊

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီး ဌာန (နောက်ဆက်တွဲ-ခ)**

(၁) ထုံးကျောက် တူးဖော်ခြင်းနှင့် ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရေး၊ ဒေသခံ ပြည်သူများ ဘေးအန္တရာယ် ကျရောက်မှု မရှိစေရေးနှင့် နစ်နာမှု မရှိစေရေးအတွက် လုပ်ငန်းအကောင်အထည် မဖော်မီ ပတ်ဝန်းကျင် နှင့် လူမှုရေးအပေါ် ထိခိုက်မှု ဆန်းစစ်ခြင်း ( Environmental and Social Impact Assessment - ESIA) လုပ်ငန်းများ

ဆောင်ရွက်ပြီးမှသာ လုပ်ငန်း ဆောင်ရွက်ခွင့်ကို စိစစ်ခွင့်ပြုရန် ၊ ပတ်ဝန်းကျင် နှင့် လူမှုရေးအပေါ် ထိခိုက်မှု ဆန်းစစ်ခြင်း (ESIA)ဆောင်ရွက်ရန် နှင့် ESIA အစီရင်ခံစာ တင်ပြရန်၊

(၂)အထက်ပါ ဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင် ၊ လူမှုရေးနှင့် ကျန်းမာရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းလမ်းများ၊ စောင့်ကြည့် လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျှော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံ ခန့်ခွဲမှု အစီအစဉ်( Environmental Management Plan-EMP) ရေးဆွဲ တင်ပြ ရန် နှင့် EMP အစီအစဉ်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၃)နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေတို့နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ လိုက်နာ ကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၄)စီမံကိန်းလုပ်ငန်း နှင့်စပ်လျဉ်း၍ ဒေသခံပြည်သူများ သိရှိနားလည်စေရန် ရှင်းလင်း ဆွေးနွေးပြီး သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ဒေသခံလူထု၏ အကြံပြု သဘောထားများ ရယူဆောင်ရွက်ရန်နှင့် ၎င်းတို့၏ လူမှုဖွံ့ဖြိုးရေး အစီအမံများ ထည့်သွင်း ဆောင်ရွက်ရန်၊

**( ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ESIA လုပ်ငန်းများ ဆောင်ရွက်ပြီးစီးမှု အစီရင်ခံစာ၊ EMP ဆောင်ရွက်မည့် အစီအမံများ ဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီ တင်ပြထားပါ သည်။ နောက်ဆက်တွဲ - စ )**

(ဂ) **စက်မှုဝန်ကြီးဌာန (နောက်ဆက်တွဲ - ဂ)**

(၁)တစ်နေ့တန် (၁၂၀၀)ကျ TPD (Dry)စနစ်ဖြင့် ဆင်မင်း(၃)ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဟု ဖော်ပြထား ပါကြောင်း၊

(၂)အဓိက ကုန်ကြမ်းဖြစ်သော ထုံးကျောက်ကို မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည် မြို့နယ်၊ နွားလည်ကောက်တောင် ဒေသရှိ ထုံးကျောက်သိုက် (၂၁၆)ဧက နှင့် ကျောက်ပုခက်တောင် ဒေသရှိ ထုံးကျောက်သိုက်(၁၄၁.၂၅)ဧကတို့မှ ထုတ်ယူသုံးစွဲ မည် ဖြစ်ပါကြောင်း၊ သုံးစွဲနိုင်မှုကာလမှာ နှစ်(၁၂၀)ခန့် ဖြစ်ပါကြောင်း၊

(၃)အခြားကုန်ကြမ်းဖြစ်သည့် ကျောက်မီးသွေးကို စစ်ကိုင်းတိုင်းဒေသကြီး၊ ကလေးဝ မြို့နယ်၊ ကျောက်အုံချောင်းဒေသရှိ ကျောက်မီးသွေး လုပ်ကွက်(၅၁၆၅.၂၅)ဧကမှ

ထုတ်ယူ သုံးစွဲမည်ဖြစ်ပြီး ဂေါ်ဒန်ကျောက်ကို သီပေါမြို့နယ်ရှိ သတ္တု(၃)မိုင်းမှ ဝယ်ယူ သုံးစွဲမည် ဖြစ်ပါကြောင်း၊

(၄) ဘိလပ်မြေစက်ရုံကို Computer Control စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး တစ်နေ့တန် ၁၂၀၀ Add on လုပ်ငန်းအတွက် Impact Hammer Crusher, Jaw Crusher ကုန်ကြမ်းကြိတ်စက် Shaft Raw Mill, Coal Mill တို့ပါဝင် သော်လည်း စက်စွမ်းအားများ အသေးစိတ် ဖော်ပြထားခြင်း မရှိပါကြောင်း၊

( အထက် အပိုဒ်ခွဲ-၄ ပါ ကိစ္စနှင့်စပ်လျဉ်း၍ ကုမ္ပဏီမှ အသုံးပြုမည့် စက်များ၏ Capacity ကို ပြန်လည် တင်ပြထားပါသည်။)

(၅) ကုန်ကြမ်း လိုအပ်ချက် နှင့် ကုန်ချော ထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိပါကြောင်း၊

(၆) နှစ်စဉ် ထုတ်လုပ်မှု နှင့် စက်အင်အား/လူအင်အား အချိုးအစား ညီမျှမှု ရှိပါကြောင်း၊

(၇) ထုတ်လုပ်မှုနှုန်းများ တင်ပြထားရှိမှု နှင့် ဈေးနှုန်း တင်ပြထားမှုများ ဆီလျော်မှု ရှိပါကြောင်း၊

(၈) ပတ်ဝန်းကျင် လေထုညစ်ညမ်းမှု မဖြစ်ပေါ်စေရေး သတိပြု ဆောင်ရွက်ရန်နှင့် သက်ဆိုင်ရာ ဒေသဌာန အဖွဲ့အစည်းများ နှင့် ပတ်ဝန်းကျင်တွင် နေထိုင်သူများ၏ သဘောထားများ ရယူဆောင်ရွက်သင့်ပါကြောင်း၊

(ဃ) **သတ္တုတွင်း ဝန်ကြီးဌာန (နောက်ဆက်တွဲ-ဃ)**

(၁) Myanma Economic Holdings Ltd. မှ တစ်ရက်လျှင် တန်(၁၂၀၀) ကျ TDP (Dry) Add On ဆင်မင်း(၃) ဘိလပ်မြေစက်ရုံအတွက် တစ်နှစ် ကုန်ကြမ်း လိုအပ်ချက်နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်-

(ကက) ထုံးကျောက် တစ်နှစ် လိုအပ်ချက် လျာထားတန်ချိန် (၅၄၃,၄၇၇)တန်အား မန္တလေးတိုင်း ဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ နွားလည်ကောက်တောင်၊ မြောက်ဘက်ခြမ်း လုပ်ကွက် ဧရိယာ (၂၁၆)ဧက၊ ကျောက်ဆည်မြို့နယ်၊ ရဲဘော်ကြီးကျေးရွာအုပ်စု၊ ကျောက်ပုခက်တောင် လုပ်ကွက် ဧရိယာ (၁၄၁.၂၅)ဧက လုပ်ကွက်(၂)ကွက်တို့မှ ထုတ်ယူနိုင်ပါကြောင်း၊

(ခခ) ကျောက်မီးသွေး တစ်နှစ် လိုအပ်ချက် တန်ချိန်(၄၂,၃၄၈)အား ကလေးဝ မြို့နယ်၊ ကျောက်အုံးချောင်းဒေသ၊ ဧရိယာ(၅၁၆၅)ဧက လုပ်ကွက်မှ ထုတ်ယူ နိုင်ပါကြောင်း၊

(ဂဂ) ဂေါ်ဒန်ကျောက် တန်ချိန် (၁,၂၄၈.၄၀)တန်အား သီပေါမြို့မှ ဝယ်ယူ သုံးစွဲ နိုင်ပါကြောင်း၊

(ဃဃ) သံကျောက် တန်ချိန် (၄,၈၇၃.၇၀)တန်အား မန္တလေးတိုင်း ဒေသကြီး၊ ပြင်ဦးလွင်မြို့နယ်၊ အင်ယားကျေးရွာအုပ်စု ဧရိယာ(၁၈၀)ဧက လုပ်ကွက်မှ ထုတ်ယူနိုင်ပါကြောင်း၊

(ငင) မြေစေး တန်ချိန် (၅၈,၅၀၅.၄၀)တန်အား နွားလည်ကောက်တောင် အနီး ဝန်းကျင်မှ ရယူသုံးစွဲနိုင်ပါကြောင်း၊

၃။ လုပ်ငန်း အဆိုပြုချက်ကို **(နောက်ဆက်တွဲ - င)**ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီး မြှုပ်နှံမှု ပမာဏမှာ **Euro (၂၅.၆၀)သန်း အပါအဝင် ကျပ် (၂၈၃၄၀.၀၀) သန်း** ဖြစ်ပါသည်။ ရင်းနှီး မြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| (က) | ငွေသား | ကျပ် | ၁၅၀၀.၀၀ သန်း | |
| (ခ) | စက်ပစ္စည်းကိရိယာများ | ကျပ် | ၁၇၈၀၀.၀၀ သန်း | (Euro ၁၇.၈ သန်း ) |
| (ဂ) | စက်ရုံ အဆောက်အဦ | ကျပ် | ၆၇၄၀.၀၀ သန်း | (Euro ၆.၇၄ သန်း ) |
| | - မြေတန်ဖိုး | ကျပ် | ၁.၀၀ သန်း | |
| | - လမ်းတန်ဖိုး | ကျပ် | ၈၅၀.၀၀ သန်း | |
| | - လျှပ်စစ်လိုင်းတန်ဖိုး | ကျပ် | ၁၆၆.၀၀ သန်း | |
| (ဃ) | ရုံးသုံးပရိဘောဂတန်ဖိုး | ကျပ် | ၃.၀၀ သန်း | |
| (င) | ကုန်ကြမ်းပစ္စည်းတန်ဖိုး | ကျပ် | ၂၂၀.၀၀ သန်း | |
| (စ) | ကျွမ်းကျင်မှုနည်းပညာ ရပ်တန်ဖိုး | ကျပ် | ၁၀၆၀.၀၀ သန်း | (Euro ၁.၀၆ သန်း ) |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ်** | **၂၈၃၄၀.၀၀ သန်း** | **(US$ ၂၅.၆၀သန်း အပါအဝင်)** |

၄။ Myanma Economic Holdings Ltd. နှင့် China Mianyang Hi-Wish Trading Co., Ltd. တို့ စက်ပစ္စည်းကိရိယာများ ဝယ်ယူမှု၊ စက်ရုံအဆောက်အဦများဆောက်လုပ်မှု၊ နည်းပညာရပ် ပိုင်းဆိုင်ရာတို့အပေါ် လုပ်ငန်းသဘောတူ ချုပ်ဆိုထားသည့် စာချုပ်တင်ပြထားပါသည်။

၅။ Myanma Economic Holdings Ltd. သည် China Mianyang Hi-Wish Trading Co., Ltd. ထံမှ Turn Key စနစ်ဖြင့် Euro(၁၀)သန်း ချေးယူမည်ဖြစ်ရာ ချေးငွေ ပြန်လည် ပေးဆပ်ရာတွင် (၁) Euroလျှင် တရုတ်ယွမ်(၉.၃)နှုန်းဖြင့် စုစုပေါင်း တရုတ်ယွမ် (၉၃,၀၀၀,၀၀၀) ပေးချေရမည် ဖြစ်ပါကြောင်း၊ တစ်နှစ်လျှင် အတိုးနှုန်း ၂ % ဖြင့် (၄)နှစ်အတွင်း (၁၆) ကြိမ် ခွဲ၍ အတိုး၊ အရင်း စုစုပေါင်း တရုတ်ယွမ် (၉၈,၃၄၇,၅၀၀)ပေးချေရမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၆။ ကုမ္ပဏီမှ ဓါတ်အားခွဲရုံနှင့် ဓါတ်အားလိုင်းများအား ၃၃ ကေဗွီသီးခြားဓါတ်အားလိုင်း၊ ၃၃/ ၁၀.၅ ကေဗွီ (၁)လုံး၊ ၃၃/၀.၄ ကေဗွီ (၅၀)ကေဗွီအေ (၁)လုံး နှင့် kVar Capacitor Bank(၂) လုံးအား လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် တည်ဆောက်၍ ကိုယ်ပိုင် လျှပ်စစ်ဓါတ်အား ထုတ်ယူ သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ဘိလပ်မြေများကို TDP (Dry)Add On နည်းဖြင့် ထုတ်လုပ်မည်ဖြစ်ပြီး ပြည်တွင်းတွင် (၁၀၀%) ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(၅)နှစ်မြောက်တွင် တန်(၃၃၉,၈၄၀) ထုတ်လုပ်မည်ဖြစ်ပြီး တစ်တန် ရောင်းဈေးနှုန်းမှာ (၇၀,၀၀၀)ကျပ် ဖြစ်ပါသည်။

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေ မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | **ကျပ်/သန်း** |
|---|---|---|
| (က) | ဝင်ငွေ | ၂၃,၇၈၈.၀၀ |
| (ခ) | အသုံးစရိတ် | ၁၈၃၄၅.၀၀ |
| (ဂ) | အသားတင်အမြတ် | ၅၄၄၃.၀၀ |

၉။ နိုင်ငံတော်မှ ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ် (၁၁၈၉.၀၀) သန်း ၊ ဝင်ငွေခွန် ကျပ် (၁၈၁၄.၀၀) သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ် နှင့် (၂)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ (၂၃.၈၉)ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၀။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၅၅၀)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ဝန်ထမ်း သက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် ဝန်ထမ်းများ သတ်မှတ်လစာနှုန်း ပြည့်ဝစွာ ရရှိရေး ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ သာရေးနာရေး အကျိုးခံစားခွင့်ပြုမည် ဖြစ်ပါကြောင်း၊ ငွေချေးငှားခြင်း၊ ဝတ်စုံထုတ်ပေးခြင်း၊ ပျော်ပွဲရွှင်ပွဲကျင်းပပေးခြင်း၊ ရက်မပျက် ဆုပေးမှုစီစဉ်ပေးခြင်း၊ စားသောက်ရေး စီစဉ်ပေးခြင်း၊ နေထိုင်မှု နှင့် သက်သာချောင်ချိရေး ဆောင်ရွက်ပေးခြင်း၊ ပညာရေး ပိုင်းဆိုင်ရာ ဖွင့်လှစ်ပေးခြင်းတို့ ဆောင်ရွက်ပေးမည် ဖြစ်ပါကြောင်း၊ အလုပ်သမားများကို ဥပဒေနှင့်အညီ လုပ်ကိုင် ဆောင်ရွက်စေပြီး တည်ဆဲ ဥပဒေများ လိုက်နာစေရန် ဆောင်ရွက် ထားမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၁။ ကုမ္ပဏီမှ ထုတ်လုပ်မည့် ဘိလပ်မြေ၏ အမှတ်တံဆိပ်အား ဆင်မင်း အမှတ်တံဆိပ်ဖြင့် အသုံးပြု ထုတ်လုပ်မည်ဖြစ်ကြောင်းနှင့် စာချုပ်စာတမ်း မှတ်ပုံတင်ရုံး၌ မှတ်ပုံတင် ထားရှိမည် ဖြစ်ကြောင်း ဝန်ခံကတိပြု တင်ပြထားပါသည်။

၁၂။ ငွေကြေး အထောက်အထားအဖြစ် မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက် အပါအဝင်(၉)ဦး အမည်ဖြင့် မြဝတီဘဏ် လီမိတက်ရှိ (၂၈-၂-၂၀၁၃)နေ့ ရက်စွဲဖြင့် ငွေလက်ကျန် ကျပ်(၇၃၄.၃၂) သန်း တင်ပြထားရာ သုံးစွဲမည့် ကျပ်ငွေ (၂၇၄၀.၀၀)သန်း ၏ ၂၇ % ရှိကြောင်း စိစစ်ရပါသည်။

နိုင်ငံခြားငွေ အထောက်အထားအဖြစ် Myanma Economic Holdings Ltd. အမည်ဖြင့် MICB ဘဏ်တွင် (၃၀-၁-၂၀၁၃)နေ့ရှိ US$ (၅.၃၁)သန်း၊ (၁၁-၁-၂၀၁၃)နေ့ရှိ Euro ငွေလက်ကျန် (၁၄.၄၂) သန်း၊ MFTB ဘဏ်တွင် (၂၂-၂-၂၀၁၃)နေ့ရှိ US$ (၃.၇၉)သန်း၊ (၂၂-၂-၂၀၁၃)နေ့ရှိ Euro ငွေလက် ကျန် (၁.၆၇) သန်း တင်ပြထားပါသည်။ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများ တန်ဘိုး Euro(၁၇.၈၀)သန်း တင်ပြထားရာ သုံးစွဲရန် ငွေ၏ ၉၀% တင်ပြထားကြောင်း စိစစ်ရပါသည်။

၁၃။ ယင်းလုပ်ငန်းသည် မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ ပြုလုပ် ဆောင်ရွက်ထားမည် ဖြစ်ပါကြောင်း၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ မီးဘေး အန္တရာယ် မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၅။ **စိစစ်တင်ပြချက်။** Myanma Economic Holding Ltd. မှ ပဲခူးတိုင်းဒေသကြီး၊ အင်းတကော် စက်မှုနယ်မြေတွင် မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် နှင့် မန္တလေးတိုင်း ဒေသကြီး၊ ကျောက်ဆည်မြို့နယ်တွင် တစ်ရက်လျှင် တန်(၁၂၀၀)ကျ TPD(Dry) ဆင်မင်း(၃) ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် အဆိုပြုချက် (၂)ခုတင်ပြထားရာ ငွေကြေးအထောက်အထားအား Bank Account တစ်ခုတည်းသာ တင်ပြထားကြောင်း စိစစ်တွေ့ရှိရပါသည်။

၁၆။ သို့ဖြစ်ပါ၍ Myanma Economic Holdings Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးရှိ မြေ (၂၅၂.၃၇)ဧက အနက် (၂၂.၂၃)ဧကတွင် တစ်ရက်လျှင် ဘိလပ်မြေ တန်(၁၂၀၀)ကျ TPD (Dry) ဆင်မင်း(၃) ဘိလပ်မြေစက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း အပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ
ရုံးလက်ခံ



နောက်ဆက်တွဲ(က)

M-261
5.3.13

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**မန္တလေးတိုင်းဒေသကြီး**

စာအမှတ်၊ ၂ /၃ -၆/၁၂ ဦး ၆ ( ၀၅၀ )
ရက် စွဲ ၊ ၂၀၁၃ ခုနှစ် ၊ မတ်လ ၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃.၁.၂၀၁၃)ရက်စွဲပါစာအမှတ်၊ ရက-၆(က) /မ-၁၂၉၉/၂၀၁၃ (၁၂၉၉ - ဃ)

၁။ မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်မှ မန္တလေးတိုင်းဒေသကြီး ၊ ကျောက်ဆည်ခရိုင် ၊ ကျောက်ဆည်မြို့နယ် ၊ ရဲဘော်ကြီး ၊ ဖျောက်ဆိပ်ပင်ကျေးရွာအနီးရှိ မြေ (၂၅၂.၃၇) ဧကတွင် တစ်နေ့လျှင် ဘိလပ်မြေတန် (၁၂၀၀)ကျ TDP (Dry) Add On ဆင့်မင်း (၃) ဘိလပ်မြေစက်ရုံတည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်မေတ္တာရပ်ခံလာပါသည်။

၂။ ဖော်ပြပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းနှင့် ပတ်သက်ပြီး မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားကို အောက်ပါအတိုင်း ထောက်ခံပြန်ကြားအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှု မရှိပါ၊

( ခ ) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးကိုက်ညီမှု ရှိပါသည်၊

( ဂ ) ဖော်ပြပါမြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ပါသည်၊

(ဃ) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အကြံပြုရန်မရှိပါ။

( ရဲမြင့် )
ဝန်ကြီးချုပ်

**မိတ္တူကို**

မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၊ အမှတ်(၁၈၉/၁၉၁)၊ မဟာဗန္ဓုလလမ်း၊
ဗိုလ်တစ်ထောင် မြို့နယ် ၊ ရန်ကုန်မြို့
လက်ခံစာတွဲ/မျှောစာတွဲ။

D/Myanmar-3/B:Kyaw (4)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

M-254
4.3.13

စာအမှတ် ၂/၂၂၀(ခ)(၆)/( ၁၃၉၄ / ၂၀၁၃)
ရက်စွဲ ၂၀၁၃ခုနှစ်၊ဖေဖော်ဝါရီလ ၂၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ <u>သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ</u>

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၂၃-၁-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ရက-မ(က)/မ-၁၂၉၉/၂၀၁၂(၁၂၉၉-ဆ)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်သို့ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ပင်ကျေးရွာအနီးရှိ မြေ (၂၅၂.၃၇) ဧကတွင် တစ်နေ့လျှင် တန် (၁၂၀၀) ကျ TDP (Dry) Add On ဆင်မင်း (၃) ဘိလပ်မြေစက်ရုံ တည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာအားစီစစ်ရာတွင် ဘိလပ်မြေ ကုန်ကြမ်းပစ္စည်းများဖြစ်သောထုံးကျောက်၊ ဘောက်ဆိုက် (သံကျောက်)၊ ကျောက်မီးသွေးထုတ်လုပ်ခွင့်နှင့် ဂေါ်ဒန်ကျောက်ဝယ်ယူခွင့်ကို သတ္တုတွင်းဝန်ကြီးဌာန၏ ခွင့်ပြုချက်ရရှိပြီးဖြစ်ကြောင်း၊ ဘိလပ်မြေထုတ်လုပ်မှုနည်းစဉ်နှင့် အဆိုပြုလုပ်ငန်းစီမံကိန်းမှ သဘာဝပတ်ဝန်းကျင်ထိခိုက်မှု မရှိစေရန် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များကို ယေဘုယျအားဖြင့် ဖော်ပြထားပြီး အဆိုပြုစီမံကိန်းလုပ်ငန်း စတင်တည်ထောင် ဆောင်ရွက်သည့်အချိန်မှ လုပ်ငန်းအပြီးသတ်သည့်အချိန်အထိ ပတ်ဝန်းကျင်နှင့်လူမှုရေးအပေါ် ထိခိုက်မှုမရှိစေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ဆောင်ရွက်ထားရှိမည့်အစီအစဉ်များ၊ စက်ရုံအတွင်း စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှု၊ လုပ်ငန်းခွင် ပတ်ဝန်းကျင်လုပ်ငန်း ကဏ္ဍနှင့်ပတ်သက်ပြီး လုပ်သားများပေါ်၌ သက်ရောက်နိုင်သော အသံ၊ ဖုန်မှုန့်၊ ဓာတ်ငွေ့များကို ဆန်းစစ်ခြင်း၊ အလုပ်သမားများ၏ ကျန်းမာရေးအားဆန်းစစ်ခြင်း၊ အလုပ်သမား များအတွက်ကျန်းမာရေးအသိပညာပေးခြင်း၊ ကြိုတင်ကာကွယ်ခြင်းနှင့် လုပ်ငန်းခွင် ကျန်းမာရေး

စောင့်ရှောက်ခြင်းဆိုင်ရာ စီမံချက်များနှင့် စက်ရုံပတ်ဝန်းကျင် ညစ်ညမ်းမှု လျော့နည်းစေရန် ဆောင်ရွက်မည့်အစီအမံများ ထည့်သွင်းရေးဆွဲထားခြင်း မရှိကြောင်း စီစစ် တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ရာ ကုန်ကြမ်းထုတ်လုပ်ခြင်းနှင့် စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာမည့် အမှုန်အမွှား၊ အခိုးအငွေ့များသည် လူ၊ အပင်နှင့် သတ္တဝါတို့၏ ကျန်းမာရေးနှင့် ပတ်ဝန်းကျင် ထိခိုက်မှုများ ဖြစ်စေနိုင်ခြင်း၊ လုပ်ငန်းသုံးစက်ယန္တယာဉ်များ၏ ဆူညံသံကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊ ကုန်ကြမ်းထုံးကျောက်တူးဖော်ရာမှထွက်ရှိသည့် လေးသောသတ္တုများ၊ အညစ်အကြေး သတ္တုရိုင်းများကြောင့် မြေဆီလွှာယိုယွင်းပြုန်းတီးမှု ဖြစ်ပေါ်နိုင်ခြင်း၊ ကုန်ကြမ်း ထုတ်ယူသုံးစွဲခြင်းကြောင့် သယံဇာတပြုန်းတီးမှုဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ ဘိလပ်မြေစက်ရုံတည်ဆောက်မည့်မြေနေရာသည် သစ်တောဦးစီးဌာန၏ ကြိုးဝိုင်း/ ကြိုးပြင်ကာကွယ်တောများနှင့် လွတ်ကင်းသော်လည်း ဘိလပ်မြေထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ဖော်ပြပါအချက်များကို ထည့်သွင်းဆောင်ရွက်သွားရန် လိုအပ်ပါသည်-

(က) ဘိလပ်မြေစက်ရုံအတွက် အဓိကကျသော စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်ရည်နှင့် ပတ်ဝန်းကျင်အရည်အသွေးစံချိန်စံနှုန်းတိုင်းတာခြင်းတို့ကိုစက်မှုဝန်ကြီးဌာနမှ သတ်မှတ် ထားသော စံနှုန်းများအရ ဆောင်ရွက်သွားရန်၊

(ခ) ဘိလပ်မြေစက်ရုံတည်ဆောက်မည့်နေရာ နှင့် အဓိကကုန်ကြမ်း ထုံးကျောက်ထုတ်လုပ်မည့် ဧရိယာများ၏ မြေပြင်နှင့်သွင်ပြင်လက္ခဏာ၊ မြေပြင်တည်ငြိမ်မှု အနေအထား၊ မြေအသုံးချမှု၊ မြေပြိုမှုများ ရှိနိုင်-မရှိနိုင် တို့ကို ဆန်းစစ်ရန်၊

(ဂ) ထုံးကျောက်တူးဖော်သည့်အချိန်တွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရန်၊ တောတောင်နှင့်သစ်တောဧရိယာများ မပျက်စီးစေရန် နှင့် မူလအခြေအနေအတိုင်း ရောက်ရှိနိုင်ရေး ပြန်လည်ဆောင်ရွက်ရန်၊

(ဃ) ဘိလပ်မြေထုတ်လုပ်ရာတွင် အဓိကကုန်ကြမ်း ထုံးကျောက် နှင့် လောင်စာကျောက်မီးသွေးကို အသုံးပြုရာမှ ထွက်ပေါ်လာမည့် မီးခိုးတွင်ပါဝင်သော ဓာတုဓာတ်ငွေ့များကြောင့် လေထုညစ်ညမ်းမှု လျော့နည်းသက်သာစေမည့် ခေတ်မီ နည်းပညာများ၊ စက်ပစ္စည်းကရိယာများ အသုံးပြုရန်၊

(င) မတော်တဆ မီးလောင်ကျွမ်းမှုဖြစ်ပေါ်ပါက အနီးပတ်ဝန်းကျင်ရှိ သစ်တောများသို့ မီးကူးစက်လောင်ကျွမ်းမှုမရှိစေရန် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး အစီအမံများ ထည့်သွင်းဆောင်ရွက်ထားရှိရန်၊

(စ) ဘိလပ်မြေထုတ်လုပ်ရာတွင် အသုံးပြုမည့်ဓာတုပစ္စည်းများ၊ ဘိလပ်မြေထုတ်လုပ်မှု လုပ်ငန်းစဉ်အတွင်း ပေါ်ထွက်လာမည့်ဖုန်နှင့် အမှုန်အမွှားများတို့ကို ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရေးအတွက် ထိန်းချုပ်ဆောင်ရွက်သွားမည့် နည်းလမ်းများ ပြည့်စုံစွာ ဖော်ပြရန်၊

(ဆ) စီမံကိန်းဧရိယာအနီးရှိ ပြည်သူတို့၏ ကျန်းမာရေးအား ထိခိုက်မှု ရှိနိုင်သဖြင့် စီမံကိန်းလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းဆောင်ရွက်မှုဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်း၊ အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

၅။ သို့ဖြစ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ပင်ကျေးရွာအနီးရှိ မြေ (၂၅၂.၃၇)ဧကတွင် တစ်နေ့လျှင် တန်(၁၂၀၀)ကျ TDP (Dry) Add On ဆင်မင်း (၃) ဘိလပ်မြေစက်ရုံတည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့် ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) ထုံးကျောက်တူးဖော်ခြင်းနှင့် ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် သဘာဝပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရေး၊ ဒေသခံပြည်သူများ ဘေးအန္တရာယ်ကျရောက်မှု မရှိစေရေးနှင့် နစ်နာမှုမရှိစေရေးအတွက် လုပ်ငန်းအကောင်အထည်မဖော်မီ ပတ်ဝန်းကျင်နှင့် လူမှုရေးအပေါ် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental and Social Impact Assessment - ESIA) လုပ်ငန်းများ ဆောင်ရွက်ပြီးမှသာ လုပ်ငန်းဆောင်ရွက်ခွင့်ကို စိစစ်ခွင့်ပြုရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေးအပေါ် ထိခိုက်မှုဆန်းစစ်ခြင်း (ESIA) ဆောင်ရွက်ရန်နှင့် ESIA အစီရင်ခံစာ တင်ပြရန်၊

(ခ) အထက်ပါဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းလမ်းများ၊ စောင့်ကြည့် လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်

သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် EMP အစီအစဉ်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေတို့နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) စီမံကိန်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ဒေသခံပြည်သူများ သိရှိနားလည်စေရန် ရှင်းလင်းဆွေးနွေးပြီး သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ဒေသခံလူထု၏ အကြံပြု သဘောထားများ ရယူဆောင်ရွက်ရန်နှင့် ၎င်းတို့၏ လူမှုဖွံ့ဖြိုးရေး အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုး ဝင်း ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

ကာ.၂၆၇
5.3.13

စာအမှတ်၊ ၃၄-စမ(၂) ၂၀၁၂-၂၀၁၃(၄၀၈၄)
ရက် စွဲ ၊ ၂၀၁၃ ခုနှစ် ၊ မတ် လ ၅ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃.၁.၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၂၉၉/၂၀၁၃(၁၂၉၉-စ)

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ပင်ကျေးရွာအနီးရှိ မြေ(၂၅၂.၃၇)ဧကတွင် တစ်နေ့တန်(၁,၂၀၀)ကျ TDP (Dry) Add On ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ တည်ဆောက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းနှင့်စပ်လျဉ်း၍ လုပ်ငန်းကျွမ်းကျင်မှု နည်းပညာရပ်ပိုင်းဆိုင်ရာ အချက်များအား အထူးပြုပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) တစ်နေ့တန်(၁,၂၀၀)ကျ TPD (Dry) စနစ်ဖြင့် ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည် ၊

(ခ) အဓိကကုန်ကြမ်းဖြစ်သော ထုံးကျောက်ကို မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ နွားလည်ကောက်တောင်ဒေသရှိ ထုံးကျောက်သိုက်(၂၁၆)ဧကနှင့် ကျောက်ပုခက်တောင်ဒေသရှိ ထုံးကျောက်သိုက်(၁၄၁.၂၅)ဧကတို့မှ ထုတ်ယူသုံးစွဲမည်ဖြစ်ပါသည်၊ သုံးစွဲနိုင်မှုကာလမှာ နှစ်(၁၂၀)ခန့်ဖြစ်ပါသည်။

(ဂ) အခြားကုန်ကြမ်းဖြစ်သည့် ကျောက်မီးသွေးကို စစ်ကိုင်းတိုင်းဒေသကြီး၊ ကလေးဝမြို့နယ်၊ ကျောက်အုံချောင်းဒေသရှိ ကျောက်မီးသွေးလုပ်ကွက် (၅,၁၆၅.၂၅)ဧကမှ ထုတ်ယူသုံးစွဲမည်ဖြစ်ပြီး၊ ဂေါဒန်ကျောက်ကို သီပေါမြို့နယ်ရှိ သတ္တု(၃)မိုင်းမှ ဝယ်ယူသုံးစွဲမည်ဖြစ်ပါသည်၊

(ဃ) အဆိုပါဘိလပ်မြေစက်ရုံကို Computer Control စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး တစ်နေ့တန် ၁၂၀၀ Add on လုပ်ငန်းအတွက် Impact Hammer Crusher, Jaw Crusher ကုန်ကြမ်းကြိတ်စက် Shaft Raw Mill, Coal Mill တို့ပါဝင်သော်လည်း စက်စွမ်းအားများ အသေးစိတ်ဖော်ပြထားခြင်းမရှိပါ၊

(င) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိပါသည်။

(စ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မျှတမှုရှိပါသည်။

(ဆ) ထုတ်လုပ်မှုနှုန်းများ တင်ပြထားရှိမှုနှင့် ဈေးနှုန်းတင်ပြထားမှုများ ဆီလျော်မှုရှိပါသည်။

၃။ သို့ပါ၍ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တစ်နေ့တန်(၁,၂၀၀)ကျ TPD(Dry)စနစ်ဖြင့် ဆင်မင်းအမှတ်(၃)ဘိလပ်မြေစက်ရုံတည်ဆောက်ရာတွင် ပတ်ဝန်းကျင်လေထုညစ်ညမ်းမှုမဖြစ်ပေါ်စေရေးသတိပြုဆောင်ရွက်ရန်နှင့် သက်ဆိုင်ရာ ဒေသဌာနအဖွဲ့အစည်းများနှင့် ပတ်ဝန်းကျင်တွင်နေထိုင်သူများ၏ သဘောထားများ ရယူဆောင်ရွက်သင့်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

နောက်ဆက်တွဲ (ဃ)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
**ဝန် ကြီး ရုံး**
နေပြည်တော်

စာအမှတ်၊ ၃၀ ခွဲ (၂) ၁၃ ( ၀၉၉၉ )
ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဖေဖော်ဝါရီလ ၄ ရက်

M-190 7/2

M-170 5/2

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ကျေးရွာအနီးတွင် ဘိလပ်မြေစက်ရုံတည်ဆောက်၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁၁၆ ၅/ ၆/၂

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃.၁.၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက-မ(က) / မ-၁၂၉၉ / ၂၀၁၃ (၁၂၉၉-င)

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ကျေးရွာအနီးတွင် တစ်ရက်လျှင် တန်(၁၂၀၀)ကျ ဘိလပ်မြေစက်ရုံတည်ဆောက်၍ လုပ်ငန်းဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြသည့်အဆိုပြုချက်ပါ ဘိလပ်မြေစက်ရုံတည်ဆောက်ခြင်းလုပ်ငန်းတွင် နှစ်စဉ်အသုံးပြုမည့် ကုန်ကြမ်း (ကျောက်မီးသွေး၊ ထုံးကျောက်၊ ဂေါဒန်ကျောက်၊ သံကျောက်နှင့် မြေစေး)စသည့် လိုအပ်ချက်နှင့်စပ်လျဉ်း၍ ဤဝန်ကြီးဌာန၏ သဘောထားအကြံပြုချက် ပြန်ကြားပေးပါရန် ကော်မရှင်မှ ရည်ညွှန်းစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တည်ဆောက်မည့် တစ်ရက်လျှင် တန်(၁၂၀၀)ကျ ဘိလပ်မြေစက်ရုံအတွက် တစ်နှစ်ကုန်ကြမ်း လိုအပ်ချက် လျာထားစာရင်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ထုံးကျောက် | (၅၄၃,၄၇၇ ) တန် |
| (ခ) | ကျောက်မီးသွေး | ( ၄၂,၃၄၈ ) တန် |
| (ဂ) | ဂေါဒန်ကျောက် | ( ၁,၂၄၈.၄၀) တန် |
| (ဃ) | သံကျောက် | ( ၄,၈၇၃.၇၀) တန် |
| (င) | မြေစေး | ( ၅၈,၅၀၅.၄၀) တန် |

၃။ အပိုဒ်(၂)ပါ ကုန်ကြမ်း လိုအပ်ချက်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) ထုံးကျောက်တစ်နှစ်လိုအပ်ချက် လျာထားတန်ချိန် (၅၄၃,၄၇၇)တန်အား မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊နွားလည်ကောက်တောင်၊ မြောက်ဘက်ခြမ်း လုပ်ကွက်ဧရိယာ(၂၁၆)ဧက၊ ကျောက်ဆည်မြို့နယ်၊ ရဲဘော်ကြီးကျေးရွာအုပ်စု၊ ကျောက်ပုခက်တောင် လုပ်ကွက်ဧရိယာ (၁၄၁.၂၅)ဧက လုပ်ကွက်(၂)ကွက်တို့မှ ထုတ်ယူနိုင်ပါသည်။

(ခ) ကျောက်မီးသွေးတန်ချိန် တစ်နှစ်လိုအပ်ချက် (၄၂,၃၄၈)တန်အား ကလေးဝမြို့နယ်၊ ကျောက်အုံချောင်းဒေသ ဧရိယာ(၅၁၆၅)ဧကေ လုပ်ကွက်မှ ထုတ်ယူနိုင်ပါသည်။

(ဂ) ဂေါဒန်ကျောက်တန်ချိန် (၁,၂၄၈.၄၀)တန်အား သီပေါမြို့မှ ဝယ်ယူသုံးစွဲနိုင်ပါသည်။

(ဃ) သံကျောက်တန်ချိန်(၄,၈၇၃.၇၀)တန်အား မန္တလေးတိုင်းဒေသကြီး၊ ပြင်ဦးလွင်မြို့နယ်၊ အင်ယား ကျေးရွာအုပ်စု ဧရိယာ(၁၈၀)ဧကေ လုပ်ကွက်မှ ထုတ်ယူနိုင်ပါသည်။

(င) မြေစေးတန်ချိန်(၅၈,၅၀၅.၄၀)တန်အား နွားလည်ကောက်တောင် အနီးဝန်းကျင်မှ ရယူသုံးစွဲ နိုင်ပါသည်။

4/2/13

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
သတ္တုတွင်းဝန်ကြီးဌာန
(မင်းမင်းဦး၊ ရုံးအဖွဲ့မှူး)




**MYANMA ECONOMIC HOLDINGS LIMITED**

**မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်**

M-311
16/5

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

*Reference No.* ဦးပိုင်/ဆင်မင်း-၃/ထွေ( ၀၆၂ /၂၀၁၃)

*Date* ၂၀၁၃ခုနှစ်ဖေဖော်ဝါရီလ(၂၈)ရက်

သို့

သက်ဆိုင်ရာ

အကြောင်းအရာ ။ **ဆင်မင်း(၃)ဘိလပ်မြေစက်ရုံစီမံကိန်းချေးငွေ ယူရို(၁၀)သန်းပေးချေရမည့်ကိစ္စတင်ပြခြင်း**

၁။ ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ တည်ဆောက်ရေးစီမံကိန်း၌ မတည်ငွေရင်းပမာဏတွင် ထည့်ဝင်ငွေ ကျပ်သန်း(၂၇၄၀)နှင့် ယူရို(၂၅.၆)သန်းအနက် ထည့်ဝင်ငွေယူရို(၁၅.၆)သန်းနှင့် ချေးငွေယူရို(၁၀)သန်းဖြစ်ရာ ချေးငွေ ယူရို(၁၀)သန်းအား (၁)ယူရိုလျှင် တရုတ်ယွမ်(၉.၃)နှုန်းဖြင့် တရုတ်ယွမ်စုစုပေါင်း ¥ ၉၃၀၀၀၀၀၀ ပေးချေရမည် ဖြစ်ပါသည်။

၂။ ထိုကဲ့သို့ စုစုပေါင်း တရုတ်ယွမ် ၉၃၀၀၀၀၀၀ ပေးချေရာတွင် တစ်နှစ်လျှင် အတိုးနှုန်း ၂%ဖြင့် လေးနှစ်အတွင်း (၁၆)ကြိမ်ခွဲပေးချေရမည်ဖြစ်သဖြင့် အတိုးတရုတ်ယွမ် ၅၃၄၇၅၀၀ အပါအဝင် စုစုပေါင်းတရုတ်ယွမ် ၉၈၃၄၇၅၀၀ (တိုး + ရင်း)ကို China Mianyang Hi-Wish Trading Co.,Ltd သို့ ပူးတွဲပါအတိုင်း ပေးချေရမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

ဒုတိယဗိုလ်မှူးကြီးလှစိန်(ငြိမ်း)
စက်ရုံမှူး၊ ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ

မိတ္တူကို
- ရုံးလက်ခံ/မျှောစာတွဲ

# Deferred Payment Agreement
## for Sin-Min(3) Cement Plant in Myanmar

1 As for the remaining cost of the TECHNOLOGY EQUIPMENT in ARTICLE 7-3 of the **Said Contract** amount **EURO 10,000,000.00** (Europe Union Euro: ten million only) ,shall be paid as deferred payment, but it would be paid by china Ren Min Bi (RMB) Yuan. The payment account of china Ren Min Bi (**RMB**) Yuan · s value would be ninety-three million Yuan only (¥93,000,000). the deferred payment shall be paid within 4(four)years, wish due interest of 2.0% per annual. payment shall be paid in consecutive and equally divided quarterly, totally 16 (sixteen) terms. The interest shall be counted from the date of 1 (one) month commencing from the date of the bill of lading of the first shipment .

2 The Union of Myanmar Economic Holdings Ltd. shall make payment of deferred instalment as per the following payment schedule:

| Instalments | Full Month From Commencing Product Cement | Payment (RMB) | | |
|---|---|---|---|---|
| | | Cost | Interest | Amount |
| 1 | 2 | ¥5,812,500 | ¥1,860,000 | ¥7,672,500 |
| 2 | 5 | ¥5,812,500 | ¥435,937.5 | ¥6,248,437.5 |
| 3 | 8 | ¥5,812,500 | ¥406,875 | ¥6,219,375 |





| | | | | |
|---|---|---|---|---|
| 4 | 11 | ¥5,812,500 | ¥377,812.5 | ¥6,190,312.5 |
| 5 | 14 | ¥5,812,500 | ¥348,750 | ¥6,161,250 |
| 6 | 17 | ¥5,812,500 | ¥319,687.5 | ¥6,132,187.5 |
| 7 | 20 | ¥5,812,500 | ¥290,625 | ¥6,103,125 |
| 8 | 23 | ¥5,812,500 | ¥261,562.5 | ¥6,074,062.5 |
| 9 | 26 | ¥5,812,500 | ¥232,500 | ¥6,045,000 |
| 10 | 29 | ¥5,812,500 | ¥203,437.5 | ¥6,015,937.5 |
| 11 | 32 | ¥5,812,500 | ¥174,375 | ¥5,986,875 |
| 12 | 35 | ¥5,812,500 | ¥145,312.5 | ¥5,957,812.5 |
| 13 | 38 | ¥5,812,500 | ¥116,250 | ¥5,928,750 |
| 14 | 41 | ¥5,812,500 | ¥87,187.5 | ¥5,899,687.5 |
| 15 | 44 | ¥5,812,500 | ¥58,125 | ¥5,870,625 |
| 16 | 47 | ¥5,812,500 | ¥29,062.5 | ¥5,841,562.5 |
| 17 | Total | ¥93,000,000 | ¥5,347,500 | ¥98,347,500 |

The SELLER agree can be paid in equivalent amount of Kyats or cement and the money exchange rate on the date of payment

3 No payment under this AGREEMENT shall be delayed or withheld by the **Purchaser**.

4 The **Purchaser**'s obligation to pay deferred payment and due interest shall be absolute and unconditional even if under the condition that the occurrence of the Force Majeure stipulated in Article 9 happens after acceptance of the **Said Plant**.








၂၀၀၂၇
၁၃.၃.၂၀၁၃




# MYANMA ECONOMIC HOLDINGS LIMITED

## မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

M - 312
16/3

**Reference No.** ဦးပိုင်/ဆင်မင်း-၃/ထွေ( ၈၇၃ /၂၀၁၃) **Date** ၂၀၁၃ ခုနှစ် မတ်လ (၁၃)ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **ဆင်မင်း(၃)1200 tpd (Dry) Add On ဘိလပ်မြေစက်ရုံတွင် တပ်ဆင်သည့် စက်ကြီးများ၏ အချက်အလက်များပေးပို့ခြင်း**

ကျောက်ဆည်၊ ဆင်မင်း(၃)1200 tpd (Dry) Add On ဘိလပ်မြေစက်ရုံတည်ဆောက်ခြင်း စီမံကိန်းတွင် တပ်ဆင်ထားသော ဖော်ပြပါစက်အစိတ်အပိုင်း(၆)ခု၏ စက်ပိုင်းဆိုင်ရာ Type, Size, Capacity, Size of Output, Feeding Size, Motor Type, Power များအား ပူးတွဲတင်ပြအပ်ပါသည်-

(က) Limestone Jaw Crusher

(ခ) Limestone Hammer Crusher

(ဂ) Coal Mill

(ဃ) Raw Mill

(င) Cement Mill

(စ) Rotary Kiln

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)
ဒုတိယဗိုလ်မှူးကြီး သန်းထွန်း(ငြိမ်း)
ဌာနကြီးမှူး၊ အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး

၁၃.၃

မိတ္တူကို

- ရုံးလက်ခံ/မျှောစာတွဲ

# Main Equipment for Sin-Min (3) Cement

2013.3.8

| | Limestone Jaw Crusher | Limestone hammer Crusher | Coal Mill | Raw Mill | Cement Mill | Rotary Kiln |
|---|---|---|---|---|---|---|
| Type | PE-1200×1500 | PCF2018 | Φ3.0×(6+3)m | Φ3.8×8.6m | Φ3.2×13m | Φ3.6×52m |
| Size | 1200X1500 | ф2020X1993 | Φ3.0×(6+3)m | Φ3.8×8.6m | 2×Φ3.2×13m | Φ3.6×52m |
| Capacity | 300-500 $m^3/h$ | 400～500t/h | ≥16-18t/h | 90-120t/h | 2×40t/h | 1650t/d |
| Size of output | 200mm | ≤25mm | 0.08mm<3-5% | 0.08<12%-14% | 3200-3400 $cm^2/g$ | / |
| Feeding size | ≤1000×800mm | 200mm | ≤25mm | ≤25mm | ≤20mm | / |
| Motor Type | YR355L2-8 | YRKK560-6 | YRKK560-8 | YR1600-8/1430 | YR1600-8/1430 | ZSN4-315-012 |
| Power | 185KW | 710KW | 630kw | 1600 kw | 1600kw | 250KW |






# MYANMA ECONOMIC HOLDINGS LIMITED
# မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

*Reference No.* ဦးပိုင်(ဘဏ္ဍာ)/MIC/၁၃ - ၂၂၆

*Date* ၂၀၁၃ ခုနှစ် မတ်လ ၂၈ ရက်

သို့

မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ရှိ ဖွင့်လှစ်ထားသော ဘဏ်စာရင်းများနှင့် ငွေသွင်း/ငွေထုတ် တာဝန်ခံအရာရှိများ၏ ထိုးမြဲလက်မှတ်များပေးပို့ခြင်း**

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်အနေဖြင့် မြဝတီဘဏ်လီမိတက်၊ MICB နှင့် MFTB တို့တွင် အောက်ဖော်ပြပါ ငွေစာရင်းများ ဖွင့်လှစ်ထားရှိကာ လုပ်ငန်းများဆောင်ရွက်လျက်ရှိပါသည်-

| စဉ် | ဘဏ်အမည် | ငွေစာရင်းအမှတ် |
|---|---|---|
| (က) | မြဝတီဘဏ် | C212U0011000002A |
| (ခ) | မြဝတီဘဏ် | S212U00110001120 |
| (ဂ) | MICB | FDU-10-0003 |
| (ဃ) | MICB | FUT-10-0025 |
| (င) | MFTB | 1DA-04-92119 |
| (စ) | MFTB | 1EE-04-00267 |

၂။ အထက်ပါငွေစာရင်းများအား အောက်ဖော်ပြပါ အရာရှိကြီးများဖြင့် ငွေသွင်း/ငွေထုတ်ဆောင်ရွက်လျက်ရှိကြောင်းနှင့် ဆင်မင်း(၃)ဘီလပ်မြေ ၁၂၀၀ TPD စက်ရုံအတွက် လိုအပ်ငွေအား ထုတ်ယူသုံးစွဲမည်ဖြစ်ကြောင်း လက်မှတ်နမူနာများဖြင့် ပေးပို့အပ်ပါသည်-

(က) ဒုတိယဗိုလ်မှူးကြီးသန်းထွန်း(ငြိမ်း)

(၁) ______________________

(၂) ______________________

(၃) ______________________

HEAD OF DIVISION
MYANMA ECONOMIC HOLDINGS LTD.

CWN 117

(ခ) ဒုတိယဗိုလ်မှူးကြီးသန်းဝင်း(ငြိမ်း)

(၁) ______

(၂) ______

(၃) ______

DIRECTOR
MYANMA ECONOMIC HOLDINGS LTD.

(ဂ) ဦးစိန်းနိုင်

(၁) ______

(၂) ______

(၃) ______

GENERAL MANAGER
FINANCE & ACCOUNTS
MYANMA ECONOMIC HOLDINGS LTD.

မန်နေဂျင်းဒါရိုက်တာ (ကိုယ်စား)
(ဒုတိယဗိုလ်မှူးကြီးသန်းဝင်း (ငြိမ်း) ဒါရိုက်တာ၊ ဘဏ္ဍာရေး)

မိတ္တူကို

ဌာနကြီးမှူး၊ အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး၊ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်။

ရုံးလက်ခံ။

မျှောစာတွဲ။




# MYANMA ECONOMIC HOLDINGS LIMITED
## မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

Reference No. ဦးပိုင်/ဆင်မင်း-၃/ထွေ( ၀၃၈ / ၂၀၁၃)

Date ၂၀၁၃ ခုနှစ် မတ်လ (၁၅ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **ထုတ်ကုန်တံဆိပ်အမှတ်အသား မှတ်ပုံတင်ခြင်းကိစ္စ**

ကျောက်ဆည်၊ ဆင်မင်း(၃)1200 tpd (Dry) Add On ဘိလပ်မြေစက်ရုံ တည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပါတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာတင်ပြဆောင်ရွက်လျှက်ရှိပါသည်။ ဘိလပ်မြေစက်ရုံတည်ဆောက်ပြီးပါက ပူးတွဲပါ ဆင်မင်းဘိလပ်မြေတံဆိပ်အမှတ်အသားကို စာချုပ်စာတမ်းများ မှတ်ပုံတင်ရုံးတွင် မှတ်ပုံတင်သွင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

ဒုတိယဗိုလ်မှူးကြီးလှစိန်(ငြိမ်း)
စက်ရုံမှူး၊ ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ

မိတ္တူကို
- ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ(ခ)

# SIN MINN

**BEST QUALITY**

**CEMENT**



SIN MINN
BEST QUALITY
CEMENT









BEST QUALITY
CEMENT
SIN MINN



PRODUCT OF MYANMAR

**NET WEIGHT 50 kg.**

SMT DISTRIBUTED BY SHWE MYITTA CEMENT TRADING

၂၈၀၉၂
၁၄.၃.၂၀၁၃




**MYANMA ECONOMIC HOLDINGS LIMITED**

**မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်**

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

**Reference No.** ဦးပိုင်/ဆင်မင်း-၃/ထွေ( ၀၇၅ /၂၀၁၃)

**Date** ၂၀၁၃ ခုနှစ် မတ်လ (၁၄ )ရက်

M-313
16/3

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄. ၃. ၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/ မ-၁၂၉၉/၂၀၁၃ (၂၈၉၅)

ဆင်မင်း(၃)1200 tpd (Dry) Add On ဘိလပ်မြေစက်ရုံတည်ဆောက်၍ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်နှင့် ပါတ်သက်၍တင်ပြမှုအပေါ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြန်လည်တင်ပြရန်ကိစ္စနှင့်စပ်လျဉ်း၍ ဆောင်ရွက်ထားမှုများအား ပူးတွဲတင်ပြအပ်ပါသည်။

14/3/2013

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)
ဒုတိယဗိုလ်မှူးကြီး သန်းထွန်း(ငြိမ်း)
ဌာနကြီးမှူး၊ အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး

မိတ္တူကို
- ရုံးလက်ခံ/မျှောစာတွဲ

အကြောင်းအရာ။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၏(၉. ၁. ၁၃)ရက်စွဲပါစာအမှတ်၊ ဦးပိုင်/ဆင်မင်း-၃/ထွေ(၀၂၈/၂၀၁၃)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃. ၁. ၁၃)ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၂၉၉/၂၀၁၃(၁၂၉၉-ဆ)

(၃) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏(၂၇. ၂. ၁၃)ရက်စွဲပါစာအမှတ်၊ ၂/၂၂၀(ခ)(၆)/(၁၃၉၄/၂၀၁၃)

(၄) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄. ၃. ၁၃)ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၂၉၉/၂၀၁၃(၂၈၉၅)

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ပင်ကျေးရွာအနီးရှိ မြေ(၂၅၂. ၃၇)ဧကတွင် တစ်နေ့လျှင်တန်(၁၂၀၀)ကျ TPD (Dry) Add On ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ တည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းချက်ပါစာဖြင့် အဆိုပြုချက်တင်ပြလာခြင်းကို ရည်ညွှန်းချက်ပါစာဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ သဘောထားတောင်းခံခဲ့ပါသည်။

၂။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ ရည်ညွှန်းချက်ပါစာဖြင့် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တစ်နေ့လျှင်တန်(၁၂၀၀)ကျ TPD (Dry) Add On ဆင်မင်း(၃)ဘိလပ်မြေစက်ရုံတည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် စပ်လျဉ်း၍အောက်ဖော်ပြပါအချက်များကို ထည့်သွင်းဆောင်ရွက်ရန် အကြောင်းကြားလာပါသဖြင့် ဆောင်ရွက်ထားရှိမှုအား တင်ပြအပ်ပါသည်-

(က) ဘိလပ်မြေစက်ရုံအတွက် အဓိကကျသော စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်ရေနှင့် ပတ်ဝန်းကျင်အရည်အသွေး စံချိန်စံနှုန်းတိုင်းတာခြင်းတို့ကို စက်မှုဝန်ကြီးဌာနမှ သတ်မှတ်ထားသောစံနှုန်းများအရ ဆောင်ရွက်ပါသည်-

(၁) **စွန့်ပစ်ရေညစ်ညမ်းမှုမရှိစေရေးဆောင်ရွက်မှု။** စွန့်ပစ်ရေကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေးအတွက် China Mianyang Hi-Wish Trading Co., Ltd အနေနှင့် China Standard နှင့်အညီ Treatment များပြုလုပ်သွားမည်ဖြစ်ကြောင်း သိရပါသည်။ စွန့်ပစ်ရေညစ်ညမ်းစေရာတွင် ကက်တမီယမ် (Cd) ပါဝင်မှု 0.3mg/1 ထက်များခြင်း၊ ခဲ (Pb) ပါဝင်မှု 1.0 mg/1 ထက်များခြင်း၊ ပြဒါး (Hg) ပါဝင်မှု 1.005mg/1 ထက်များခြင်း ဓါတုဗေဒဆိုင်ရာ အောက်ဆီဂျင်လိုအပ်မှု 160mg/1 ထက်များခြင်း၊ အနည်အနှစ်များ 200 mg/1 ထက်များခြင်း၊ တွင်းထွက်ဆီ 5mg/1 ထက်များခြင်းတို့ကြောင့်ဖြစ်ပြီး ပင်လယ်သို့စွန့်ပစ်က PH 5.0~ 9.0 အတွင်းရှိရန်လိုအပ်၍ မြစ်ထဲသို့စွန့်ပစ်ပါက စွန့်ပစ်ရေ PH 5.8~8.6 အတွင်းရှိရမည်ဖြစ်ပါသည်။ ဆင်မင်း(၃) ဘိလပ်မြေစက်ရုံစီမံကိန်းအနေနှင့် ဓါတုဗေဒပစ္စည်းများ အသုံးမပြုရသလောက်နည်းပါခြင်း၊ ဓါတ်ပြုမှုရှုပ်ထွေးခြင်းမရှိ၍ စွန့်ပစ်ရေညစ်ညမ်းမှုမရှိစေရေး အောက်ပါနည်းလမ်းများအတိုင်း ဆောင်ရွက်ရန် စီမံထားရှိပါသည်-

(ကက) **လေလွင့်ပြုန်းတီးရေစွန့်ပစ်မှုစနစ် (Wase Water Drainage System)။** ဆင်မင်း(၃) ဘိလပ်မြေစက်ရုံမှလေလွင့်ပြုန်းတီးရေ တစ်ရက်လျှင်ထုထည် $54m^3$ ထွက်ရှိမည်ဖြစ်ပါ

B/E/Desktop/Nu Nu Khin(SM 3)

သည်။ Filter နှင့် သန့်စင်မှုကိရိယာများသုံးပြီး ထွက်ရှိလာမည့်ရေတွင် ရွှံ့နှစ်များ၊ ဆီများနှင့် အဆိပ်အတောက်မဖြစ်စေနိုင်သောပစ္စည်းများပါလာတတ်ပါသည်။ ၄င်းတို့ကို အနည်ထိုင်စေပြီးမှ စွန့်ပစ်ခြင်းစနစ်ဖြစ်ပါသည်။

( ခခ ) **ရေဆိုးရေညစ်စွန့်ပစ်သည့်စနစ် (Sewage Drainage System)**။ ရေဆိုးရေညစ်မှာ တစ်ရက်လျှင်ရေထုထည် 108 $m^3$ ထွက်ရှိမည်ဖြစ်ပြီး၄င်းတွင်အဓိကအားဖြင့် အော်ဂဲနစ်အညစ်အကြေးများပါဝင်ပါသည်။ China Standard အရ BOD 5 = 150-250mg/1, SS=200-400mg/1 မျှရေဆိုးတွင်ပါဝင်နေတတ်ပါသည်။ ၄င်းရေဆိုးများအား Two Phase Bio Chemical Treatment နည်းအသုံးပြုသန့်စင်မည်ဖြစ်ပြီး BOD 5≤20mg/1, PH=6~9, COD5≤ 100mg/1, SS≤ 70mg/1 Petroleum Substance ≤ 5mg/1 ထိ ကျဆင်းသွား၍ သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေနိုင်ကြောင်းသိရပါသည်။

( ခ ) ဘိလပ်မြေစက်ရုံတည်ဆောက်မည့်နေရာနှင့် အဓိကကုန်ကြမ်းထုံးကျောက်ထုတ်လုပ်မည့်ဧရိယာများသည် ဆင်မင်း(၁/၂)ယခင်တည်ဆောက်ထားသည့် လုပ်ကွက်အတွင်းမှ ထုတ်လုပ်သွားမည်ဖြစ်ပြီး ထုတ်လုပ်မည့် Design Plan များ Mine Transporting Road ထည့်သွင်းတည်ဆောက်ထားပြီး Top to Down စနစ်ဖြင့် အလွှာလိုက်ထုတ်လုပ်သွားမည်ဖြစ်သည်။

( ဂ ) ထုံးကျောက်တူးဖော်ချိန်တွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက် Limestone High Grade နှင့် Lower Grade များအား Advanced Pre-blending Technology အတိုင်းဆောင်ရွက်ထားပါသဖြင့် Enviromental Production ဆောင်ရွက်ထားပြီးဖြစ်ပါသည်။

(ဃ) ဘိလပ်မြေထုတ်လုပ်ရာတွင် အဓိကကုန်ကြမ်းထုံးကျောက်နှင့် လောင်စာကျောက်မီးသွေးကို အသုံးပြုရာမှထွက်ပေါ်လာမည့်မီးခိုးတွင် ပါဝင်သော ဓါတုဓါတ်ငွေ့များကြောင့်လေထုညစ်ညမ်းမှုလျှော့နည်းသက်သာစေမည့်ခေတ်မီနည်းပညာများ စက်ပစ္စည်းကိရိယာများအသုံးပြုထားပါသည်။

(၁) **အရေးကြီးသောနေရာတိုင်းတွင် Electrostatic Precipitator များထားရှိခြင်း**။ ဆင်မင်း(၃) ဘိလပ်မြေစက်ရုံစီမံကိန်းတွင်အရေးပါသော ပင်မခေါင်းတိုင်နှင့် Clinker Electrostatic Precipitation ခေါင်းတိုင်တို့မှ Exhaust Gas မထုတ်လွှတ်မီ Electrostatic Precipitator ထားရှိ၍ အမှုန်များအား ဖမ်းယူစုဆောင်းပေးခြင်းဖြင့် Exhaust Gas ၏ လေထဲတွင်အမှုန်ပါဝင်မှုလျှော့ချပေးနိုင်ပါသည်။

(၂) အမှုန်ထွက်နိုင်သောနေရာတိုင်းတွင် Bag Filter နှင့် Fan များထားရှိခြင်းနည်းစဉ်အရ လုပ်ငန်းလုပ်ဆောင်စဉ်အမှုန်ထွက်ရှိနိုင်သည့် နေရာတိုင်းမှ အမှုန်များကို Fan ဖြင့် စုပ်ယူ၍ Bag Filter တွင် အမှုန်များဖမ်းယူကာ အမှုန်ကင်းစင်သော ဓါတ်ငွေ့ကို ပြင်ပသို့ထုတ်ပေးခြင်းဖြစ်ပါသည်။ ဤနည်းဖြင့် လုပ်ငန်းခွင်ထိခိုက်မှုမရှိစေရေး ဆောင်ရွက်ထားရှိပါသည်။

( င ) မတော်မဆမီးလောင်ကျွမ်းမှုဖြစ်ပေါ်ပါက အနီးပတ်ဝန်းကျင်ရှိသစ်တောများသို့ မီးကူးလောင်ကျွမ်းမှုမရှိစေရန် မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးအစီအမံများ ထည့်သွင်းဆောင်ရွက်ထားရှိပါသည်-

(၁) **မီးလောင်ကျွမ်းမှုဖြစ်ပွားနိုင်သော အကြောင်းအရင်းများ**

(ကက) လူတို့၏မဆင်ခြင်မှုကြောင့် မီးလောင်ကျွမ်းမှုဖြစ်ပေါ်ခြင်း

( ခခ ) အဖျက်သမားသောင်းကျန်းသူများမှ မီးရှို့ဖျက်ဆီးခြင်း

( ဂဂ ) လျှပ်စစ်ဝါယာကြိုးများ၏ ရှော့ကြောင့် မီးလောင်ကျွမ်းခြင်း

(ဃဃ) စက်ရုံ၏ဓါတ်ငွေ့နှင့် လျှပ်စစ်မီးဖိုများမှ မတော်တဆဖြစ်စဉ်များကြောင့်မီးလောင်ကျွမ်းခြင်း

( ငင ) တောမီးများမှ ကူးစက်လောင်ကျွမ်းနိုင်ခြင်း။

(၂) **ရေရရှိနိုင်သောနေရာများ**

ဆင်မင်းဘိလပ်မြေစက်ရုံ အောက်ပါနေရာများမှ ရေရရှိနိုင်ပါသည်-

(ကက) ဂါလံ(၉၀၀၀၀၀)ရေကန်

( ခခ ) ဆင်မင်း(၁)စက်ရုံ ရေပေးဝေရေးဌာနရှိဂါလံ (၃၀၀၀၀၀)ရေကန်

( ဂဂ ) ဆင်မင်း(၂)စက်ရုံ ရေပေးဝေရေးဌာနရှိဂါလံ (၅၀၀၀၀၀)ရေကန်

(၃) **မိမိစက်ရုံ**

(ကက) လူ။ မိမိစက်ရုံဝန်ထမ်း(၆၉၀)ဦး

( ခခ ) ယာဉ်။ ဒေါင်ဖန်းရေသယ်ယာဉ်(၁)စီး၊ ဒေါင်ဖန်းမီးသတ်ယာဉ်(၁)စီး

(၄) **သာမန်အချိန် ကြိုတင်ကာကွယ်ခြင်း**

(ကက) မီးကင်းလုံခြုံရေးချထားခြင်း။ နေ့ဘက်တွင်ဂိတ်လုံခြုံရေးများမှ ထုတ်နှုတ်၍ စက်ရုံအတွင်း လှည့်လည်စောင့်ကြည့်ထားပြီး ညဘက်တွင်တာဝန်မှူး၊ တာဝန်ကြပ်ကြီးဦးစီးလုံခြုံရေးဝန်ထမ်းများအပါအဝင်လှည့်ကင်းဖြင့် စောင့်ကြည့်ထားရန်။

( ခခ ) မီးသတ်ဗူးများ။ မီးလောင်ကျွမ်းချိန်တွင် စနစ်တကျအသုံးပြုနိုင်ရန်အတွက် မီးချိတ်၊ မီးကပ်၊ သဲအိတ်များကို ဌာန/ဌာနခွဲအားလုံးအိမ်ထောင်သည်လိုင်းခန်းများတွင် ထားပြီးဖြစ်ပါသည်။

(၅) **မီးချိတ်/မီးကပ်/သဲအိတ်။** မီးလောင်ကျွမ်းချိန်တွင် စနစ်တကျအသုံးပြုနိုင်ရန်အတွက် မီးချိတ်၊ မီးကပ်၊ သဲအိတ်များကို ဌာန/ဌာနခွဲအားလုံးအိမ်ထောင်သည်လိုင်းခန်းများတွင် ထားပြီးဖြစ်ပါသည်။

(၆) **ရေကန်/ရေပုံးများ။** မီးလောင်မှုဖြစ်ပွားချိန်တွင် ဂါလံ(၉၀၀၀၀၀)၊ ဂါလံ(၃၀၀၀၀၀)၊ ဂါလံ(၅၀၀၀၀၀) ဆန့် ရေကန်မှ ရေကိုခပ်ယူအသုံးပြု၍ မီးငြိမ်းသတ်နိုင်ရေးဌာနခွဲအားလုံးကို ရေပုံးများထားရှိဆောင်ရွက်ပြီးဖြစ်ပါသည်။

(၇) **လျှပ်စစ်မီးများသုံးစွဲမှုစစ်ဆေးခြင်း။** လျှပ်စစ်မီးများသွယ်တန်းထားရှိမှုကာလ ကြာမြင့်ပျက်စီးချို့ယွင်းမှုကြောင့်လည်းကောင်း၊ လျှပ်စစ်မီးခလုတ်များစနစ်တကျသုံးစွဲမှုမရှိခြင်းကြောင့်လည်းကောင်း၊ မတော်တဆမီးလောင်ကျွမ်းမှုဖြစ်ပွားတတ်သဖြင့် စက်ရုံအတွင်းရှိ အဆောက်အဦ စက်ပစ္စည်းအားလုံး လျှပ်စစ်မီးသွယ်တန်းထားရှိမှု စနစ်တကျရှိ/မရှိ စစ်ဆေးကြပ်မတ်ရမည်။ စစ်ဆေးကြပ်မတ်ရေးအဖွဲ့အား အောက်ပါအတိုင်းဖွဲ့စည်းထားရှိပြီး တစ်လလျှင်(၄)ကြိမ် စစ်ဆေးသွားမည်ဖြစ်ပါသည်-

**ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ**

| | |
|---|---|
| (ကက) ဥက္ကဋ္ဌ | လ/ထစက်ရုံမှူး(နည်းစဉ်) |
| ( ခခ ) အဖွဲ့ဝင် | အလုပ်ရုံမှူး (ကုန်ချော) |
| ( ဂဂ ) အဖွဲ့ဝင် | ဌာနခွဲမှူး (ကုန်ကြမ်း) |
| (ဃဃ) အဖွဲ့ဝင် | ဌာနခွဲမှူး (မီးသင်းဖို) |
| ( ငင ) အတွင်းရေးမှူး | ဌာနခွဲမှူး (စီမံခန့်ခွဲရေး) |

(၈) **အရေးပေါ်အချိန်။** မီးဘေးအန္တရာယ်ကျရောက်နိုင်သည့်ကာလအတွင်း အောက်ပါအတိုင်းပြင်ဆင်သွားမည်-

(၁) **မီးငြိမ်းသတ်ရေးအဖွဲ့။** အောက်ပါအတိုင်းဖြစ်ပါသည်-

(ကက) လ/ထစက်ရုံမှူး(နည်းစဉ်) အဖွဲ့ခေါင်းဆောင်

( ခခ ) ဌာနခွဲမှူး (ခွဲစက်ဌာန) အဖွဲ့ဝင်

( ဂဂ ) ဌာနခွဲမှူး(ကုန်ကြမ်းဌာန) အဖွဲ့ဝင်

(ဃဃ) အလုပ်ရုံခွဲမှူး(ကုန်ချော) အဖွဲ့ဝင်

( ငင ) မီးငြိမ်းသတ်ရေးအဖွဲ့တာဝန်။ မီးငြိမ်းသတ်ရေးအဖွဲ့သည် အရေးပေါ်နှင့် အရေးကြီးချိန်များတွင် စက်ရုံဝန်းကျင်နှင့် စက်ရုံအတွင်းမီးလောင်ကျွမ်းမှုဖြစ်ပေါ်ပါက စုရပ်အဖြစ်မီးလောင်မှုဖြစ်ပွားရာ နေရာအားသတ်မှတ်ပေးပြီး မီးငြိမ်းသတ်ရန်ဆောင်ရွက်ခြင်း။ မီးသတ်ဝန်ထမ်းများနှင့်အတူ ဌာနခွဲအားလုံးမှ ဝန်ထမ်း(၃)ပုံ(၁)ပုံ ပူးပေါင်းဆောင်ရွက်ငြိမ်းသတ်မည်ဖြစ်ပါသည်။

(၉) **အရေးကြီးချိန်။** မီးဘေးအန္တရာယ်ကျရောက်ချိန်တွင် အရေးပေါ်အချိန်၌ ဖွဲ့စည်းတာဝန်ပေးထားသောအဖွဲ့များအတိုင်း ဟန်ချက်ညီညီဖြင့် ဆောင်ရွက်သွားရမည်ဖြစ်ပါသည်။

(၁၀) **ဆက်သွယ်ရေး**

(က) **မီးသတ်ငုတ်။** မီးသတ်ငုတ် (Hydrant) များ ဌာနကြီး(၅)ဌာနဖြစ်သော ခွဲစက်ပတ္တား၊ ကုန်ကြမ်းကြိတ်ဌာန၊ မီးသင်းဖိုဌာန၊ ကုန်ချောကြိတ်ဌာန၊ နည်းစဉ်ဌာနများတွင် တပ်ဆင်ထားရှိမည်ဖြစ်ပြီး မီးသတ်ငုတ်များမှ တဆင့်ရေအလွယ်တကူတပ်ဆင်သုံးစွဲမည်ဖြစ်ပါသည်။

(စ) ဘိလပ်မြေထုတ်လုပ်ရာတွင် အသုံးပြုမည့်ဓါတုပစ္စည်းများ၊ ဘိလပ်မြေထုတ်လုပ်မှုလုပ်ငန်းစဉ်အတွင်း ပေါ်ထွက်လာမည့် ဖုန်နှင့် အမှုန်အမွှားများတို့ကို ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေးအတွက် ထိန်းချုပ်ဆောင်ရွက်မည့်နည်းလမ်းများအား အပြည့်အစုံမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(၁) အရေးကြီးသောနေရာတိုင်းတွင် Electrostatic Precipitation များထားရှိခြင်း၊ ဆင်မင်း(၃) ဘိလပ်မြေစက်ရုံစီမံကိန်းတွင် အရေးပါသောပင်မခေါင်တိုင်နှင့် Clinker Electrostatic Precipitation အထွက်ခေါင်တိုင်တို့မှ Exhaust Gas မထုတ်လွှင့်မီ Electrostatic Precipitator ထားရှိ၍ အမှုန့်များအားဖမ်းယူစုဆောင်းပေးခြင်းဖြင့် Exhaust Gas ၏ လေထဲတွင်အမှုန်ပါဝင်မှု လျော့ချပေးနိုင်ပါသည်။

(၂) အမှုန်ထွက်ရှိနိုင်သောနေရာတိုင်းတွင် Bag Filter နှင့် Fan ထားရှိခြင်း၊ နည်းစဉ်အရလုပ်ငန်းဆောင်စဉ်အမှုန်ထွက်ရှိနိုင်သည့် နေရာတိုင်းမှ အမှုန်များကို Fan ဖြင့် စုပ်ယူ၍ Bag Filter တွင် အမှုန်များဖမ်းယူကာ အမှုန်ကင်းစင်သောဓါတ်ငွေ့ကို ပြင်ပသို့ထုတ်ပေးခြင်းဖြစ်ပါသည်။ ထိုနည်းဖြင့် လုပ်ငန်းခွင်ထိခိုက်မှုမရှိစေရေးဆောင်ရွက်ထားရှိပါသည်။

(၃) **မြင့်မားသောမီးခိုးတိုင်များထားရှိခြင်း။** ခေါင်းတိုင်မှထွက်ရှိမည့် Exhaust Gas များသည် အနည်းငယ်ပူနေသေးသည့်အပြင် ပူ၍အမှုန်အနည်းငယ်ရှိနိုင်သည့် မီးခိုးခေါင်းတိုင်များအား ဤစီမံကိန်းတွင် မြင့်မားစွာတည်ဆောက်ထားရှိပါသည်။

B/E/Desktop/Nu Nu Khin(SM 3)

(၄) **စက်ရုံစီမံကိန်းဧရိယာအတွင်း အရွက်ကြွေမှုအနည်းဆုံးအရိပ်ရပင်များစိုက်ပျိုးခြင်း။** ရာသီဥတုပြောင်းလဲမှုကြောင့်သော်လည်းကောင်း၊ စက်ရုံ၏ရုံဖန်ရုံခါဖြတ်တတ်သော မှုမမှန်လည်ပတ်မှုကြောင့်သော် ပုံမှန်အနေအထားထက် ပိုမိုများပြားသော အမှုန်များပတ်ဝန်းကျင်တွင်ကျရောက်တတ်ပါသည်။ ထိုသို့ဖြစ်ပါက ပတ်ဝန်းကျင်ကိုထိခိုက်မှုနည်းပါစေရန် အရွက်ကြွေကျမှုနည်းပါးသောအရိပ်ရပင်များအား စီမံကိန်းနယ်မြေတွင် တစ်အုပ်တစ်မ စိုက်ပျိုးရမည်ဖြစ်ပါသည်။ စီမံကိန်းနယ်မြေတွင် စိုက်ပျိုးသွားရန်လျာထားပြီးဖြစ်၍ ၂၀၁၃-၁၄ ဘဏ္ဍာနှစ်အတွင်း မိုးရာသီတွင်စတင်စိုက်ပျိုးနိုင်ရန် ပျိုးပင်များစုဆောင်းထားပြီးဖြစ်ပါသည်။

(ဆ) စီမံကိန်းဧရိယာအနီးရှိပြည်သူတို့၏ ကျန်းမာရေးအားစီမံကိန်းလုပ်ငန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများလျော့နည်းစေရန်အတွက် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းလမ်း၊ အစီအမံများအား အောက်ပါအတိုင်းဆောင်ရွက်ထားရှိပါသည်-

(၁) **ပတ်ဝန်းကျင်လေထုညစ်ညမ်းမှုမထိခိုက်စေရေး။** ဘိလပ်မြေထုတ်လုပ်ရာတွင် အဓိကကုန်ကြမ်းထုံးကျောက်နှင့် လောင်စာကျောက်မီးသွေးကိုအသုံးပြုရာမှ ထွက်ပေါ်လာမည့် မီးခိုးတွင် ပါဝင်သော ဓါတုဓါတ်ငွေ့များကြောင့်လေထုညစ်ညမ်းမှု လျော့နည်းသက်သာစေမည့် ခေတ်မီနည်းပညာများ စက်ပစ္စည်းကိရိယာများအသုံးပြုထားပါသည်။

(၂) **အရေးကြီးသောနေရာတိုင်းတွင် Electrostatic Precipitator များထားရှိခြင်း။** ဆင်မင်း(၃) ဘိလပ်မြေစက်ရုံစီမံကိန်းတွင်အရေးပါသော ပင်မခေါင်းတိုင်နှင့် Clinker Electrostatic Precipitation ခေါင်းတိုင်တို့မှ Exhaust Gas မထုတ်လွှတ်မီ Electrostatic Precipitator ထားရှိ၍ အမှုန်များအား ဖမ်းယူစုဆောင်းပေးခြင်းဖြင့် Exhaust Gas ၏ လေထဲတွင်အမှုန်ပါဝင်မှုလျော့ချပေးနိုင်ပါသည်။

(၃) အမှုန်ထွက်နိုင်သောနေရာတိုင်းတွင် Bag Filter နှင့် Fan များထားရှိခြင်းနည်းစဉ်အရ လုပ်ငန်းလုပ်ဆောင်စဉ်အမှုန်ထွက်ရှိနိုင်သည့် နေရာတိုင်းမှ အမှုန်များကို Fan ဖြင့် စုပ်ယူ၍ Bag Filter တွင် အမှုန်များဖမ်းယူကာ အမှုန်ကင်းစင်သော ဓါတ်ငွေ့ကို ပြင်ပသို့ထုတ်ပေးခြင်းဖြစ်ပါသည်။ ဤနည်းဖြင့် လုပ်ငန်းခွင်ထိခိုက်မှုမရှိစေရေး ဆောင်ရွက်ထားရှိပါသည်။

(၄) **မြင့်မားသောမီးခိုးတိုင်များထားရှိခြင်း။** ခေါင်းတိုင်မှထွက်ရှိမည့် Exhaust Gas များသည် အနည်းငယ်ပူနေသေးသည့်အပြင် ပူ၍အမှုန်အနည်းငယ်ရှိနိုင်သည့် မီးခိုးခေါင်းတိုင်များအား ဤစီမံကိန်းတွင် မြင့်မားစွာတည်ဆောက်ထားရှိပါသည်။

(၅) **လေလွင့်ပြုန်းတီးရေးစွန့်ပစ်မှုစနစ် (Wase Water Drainage System)။** ဆင်မင်း(၃) ဘိလပ်မြေစက်ရုံမှလေလွင့်ပြုန်းတီးရေး တစ်ရက်လျှင်ထုထည် $54m^3$ ထွက်ရှိမည်ဖြစ်ပါသည်။ Filter နှင့် သန့်စင်မှုကိရိယာများသုံးပြီး ထွက်ရှိလာမည့်ရေတွင် ရွံ့နှစ်များ၊ ဆီများနှင့် အဆိပ်အတောက်မဖြစ်စေနိုင်သောပစ္စည်းများပါလာတတ်ပါသည်။ ၎င်းတို့ကို အနည်ထိုင်စေပြီးမှ စွန့်ပစ်ခြင်းစနစ်ဖြစ်ပါသည်။

(၆) **ရေဆိုးရေညစ်စွန့်ပစ်သည့်စနစ် (Sewage Drainage System)။** ရေဆိုးရေညစ်မှာ တစ်ရက်လျှင်ရေထုထည် 108 $m^3$ ထွက်ရှိမည်ဖြစ်ပြီး၎င်းတွင်အဓိကအားဖြင့် အော်ဂဲနစ်အညစ်အကြေးများပါဝင်ပါသည်။ China Standard အရ BOD 5 = 150-250mg/1,

SS=200-400mg/1 မျှရေဆိုးတွင်ပါဝင်နေတတ်ပါသည်။ ၎င်းရေဆိုးများအား Two Phase Bio Chemical Treatment နည်းအသုံးပြုသန့်စင်မည်ဖြစ်ပြီး BOD 5≤20mg/1, PH=6~9, COD5≤ 100mg/1, SS≤ 70mg/1 Petroleum Substance ≤ 5mg/1 ထိ ကျဆင်းသွား၍ သဘာဝ ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေနိုင်ကြောင်းသိရပါသည်။

**(၇) ပညာရေးဆိုင်ရာ(နေ့ကလေးထိန်း/မူကြို၊ မူလတန်းကျောင်း)ဖွင့်လှစ်သင်ကြားပေးခြင်း**

(က) စက်ရုံဝန်ထမ်းများလုပ်ငန်းတာဝန်ထမ်းဆောင်နေချိန်အတွင်း သား/သမီးများ စနစ်တကျထိန်းသိမ်းစောင့်ရှောက်နိုင်ရေးနှင့် အနီးပတ်ဝန်းကျင်ရွာများမှသား/ သမီးများအား စက်ရုံဧရိယာအတွင်းဝန်ထမ်းအပ်ချုပ်ဆောင်အနီးတွင် နေ့ကလေးထိန်း/ မူကြိုကျောင်း(၁)ကျောင်းအား (၆. ၉. ၂၀၀၈)ရက်နေ့မှ စတင်၍ဖွင့်လှစ်ထားရှိပြီး ဖြစ်ပါသည်။

(ခ) ဝန်ထမ်းမိသားစုများ၏မူလတန်းအဆင့်ကျောင်းသားများပညာသင်ကြားမှု အဆင်ပြေ စေရန်အတွက် စက်ရုံနယ်မြေဧရိယာအတွင်းတွဲဖက်မူလတန်းကျောင်း(၁)ကျောင်းအား (၈. ၉. ၂၀၀၈)ရက်နေ့တွင် စတင်ဖွင့်လှစ်ထားရှိနိုင်ခဲ့ပြီး(၁၆. ၉. ၂၀၁၂)ရက်နေ့တွင် မူလတန်းကျောင်းအဆင့်ထိ တိုးမြှင့်ရရှိပြီးဖြစ်ပါသည်။ ယခုအခါ ကျောင်းအုပ်ဆရာမ အပါအဝင် ဆရာမ(၄)ဦး၊ ကျောင်းသား(၁၀၄)ဦးဖြင့် ကျောင်းဖွင့်လှစ်သင်ကြားပေးလျှက် ရှိပါသည်။

(ဂ) မူလတန်းကျောင်းနှင့် အထက်တန်းကျောင်းသား/ကျောင်းသူများအားစက်ရုံနှင့် (၄)မိုင် ခန့်အကွာ အ. ထ. က(၄)ကျောင်းသို့ နေ့စဉ်ကျောင်းပို့/ကြိုယာဉ်(၁)စီးစီစဉ် ဆောင်ရွက်၍ ပညာသင်ကြားပေးလျှက်ရှိပါသည်။

**(၈) ဘာသာရေးဆောင်ရွက်ခြင်း**

(က) စက်ရုံတွင် လစဉ်/နေ့စဉ်အခါကြီးဘာသာရေးရက်များတွင် ဝါဆိုသင်္ကန်းကပ်ခြင်း၊ ပတ်ဝန်းကျင်ရေပြားတောရွာရှိ ဘုန်းကြီးကျောင်းကထိန်ခင်းခြင်း၊ မြို့နယ်အဆင့်စက်ရုံ မှ ကထိန်လှူဒါန်းဆပ်ကပ်ခြင်း၊ နှစ်စဉ်မပျက်မကွက်ဆောင်ရွက်လျှက်ရှိပါသည်။

(ခ) ဘာသာရေးဆိုင်ရာကိစ္စရပ်များစဉ်ဆက်မပျက်ဆောင်ရွက်နိုင်ရေးအတွက် စက်ရုံတွင် စက်ရုံမှူးများဦးစီးဦးဆောင်ပါဝင်သော ဇွန်ဖြူပွင့်ဘာသာရေးအသင်းဖွဲ့စည်းထားရှိပြီး အပတ်စဉ်တနင်္ဂနွေနေ့တိုင်းဆွမ်းလောင်းခြင်း၊ ဝတ်ပြုရွတ်ဆိုခြင်း၊ အနီးပတ်ဝန်းကျင် ဘုန်းကြီးကျောင်းများသို့ ဆွမ်းပို့လှူဒါန်းခြင်း၊ တရားပွဲများကျင်းပပြုလုပ်ခြင်းဆောင်ရွက် ပါသည်။

(ဂ) ဘာသာရေးဝတ်အသင်းများဖွဲ့စည်းထားရှိပြီး ဝန်ထမ်းအပ်ချုပ်ဆောင်အနီးတွင် ဓမ္မာရုံ ခန်းမတစ်ခုအား ထားရှိဆောင်ရွက်ပါသည်။

**(၉) ပတ်ဝန်းကျင်ရွာများ၊ ဝန်ထမ်းနှင့်မိသားစုများအား သက်သာချောင်ချိရေး ဆောင်ရွက် ပေးခြင်း (၅)ရက်တစ်ဈေးစက်ရုံမှဖွင့်လှစ်ဆောင်ရွက်ခြင်း**

(က) ဝန်ထမ်းများနှင့် အိမ်ထောင်သည်မိသားစုစက်ရုံအနီးတွင် လိုအပ်သောအိမ်ထောင်၊ အစားအစာပစ္စည်းများလွယ်ကူစွာဝယ်ယူနိုင်ရေးအတွက် (၂၉. ၉. ၂၀၁၂)ရက်နေ့မှ စတင်၍ မြို့နယ်စည်ပင်သာယာရေးနှင့်ညှိနှိုင်း၍ အခွန်လွတ်ဈေးအဖြစ်ဖွင့်လှစ်ဆောင် ရွက်ပေးနိုင်ခဲ့ပါသည်။

B/E/Desktop/Nu Nu Khin(SM 3)

( ခ) မိသားစု၏လိုအပ်ချက်ဖြစ်သော အမဲ၊ ဝက်၊ ကြက်၊ ငါး၊ ကုန်စိမ်း၊ ကုန်ခြောက်စသည့် အမျိုးအမည်စုံလင်စွာဖြင့် လိုအပ်သလိုဝယ်ယူစားသုံးနိုင်ရန် စီစဉ်ဆောင်ရွက်ပေးနိုင်ခဲ့ပါသည်။

( ဂ) ဝန်ထမ်းများနှင့်မိသားစုများ(၅)ရက်တစ်ဈေးတွင် ဝယ်ယူနိုင်သည့်အပြင် ယခင်(၅)ရက်တစ်ဈေး(ဆင်မင်းဈေး)မဖွင့်မီကာလမှပင် ဗုဒ္ဓဟူးနေ့တွင် ဈေးကားတစ်စီး၊ တနင်္ဂနွေနေ့တွင် ဈေးကား(၂)စီး၊ ပုံမှန်စက်ရုံမှဈေးကားစီစဉ်ဆောင်ရွက်ပေးလျှက်ရှိပါသည်။

(၁၀) (၁၀. ၆. ၂၀၁၀)ပြည့်နှစ်တွင် အမှတ်(၄)အခြေခံပညာအထက်တန်းကျောင်း(စက်ရုံစုနယ်မြေ -၂) (၂၅)ကုတင်ဆံ့ပြည်သူ့ဆေးရုံ (စက်ရုံစုနယ်မြေ-၂)တို့အား မန္တလေးတိုင်း၊ ကျောက်ဆည်ခရိုင်၊ ကျောက်ဆည်မြို့နယ်ရှိ ဖျောက်ဆိပ်ပင်ကျေးရွာတွင် လူ့စွမ်းအားအရင်းအမြစ်ဖွံ့ဖြိုးတိုးတက်စေနိုင်မည့်အထောက်အကူပြု ပင်မဌာနများအဖြစ် နိုင်ငံတော်အကြီးအကဲ၏လမ်းညွှန်မှုအရ တည်ဆောက်ပေးခဲ့ပါသည်။ အေးချမ်းသာယာပြီး ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်သစ်ကို တည်ဆောက်ရာတွင် စွမ်းအားအရင်းအမြစ် ဖွံ့ဖြိုးတိုးတက်ရေးသည် လူတို့၏ပညာရေး၊ ကျန်းမာရေးသည် အဓိကကျသောအခန်းမှပါဝင်လျှက်ရှိပါသည်။ နယ်စပ်ဒေသတိုးတက်ဖွံ့ဖြိုးရေးကို ဆက်လက်ဆောင်ရွက်နိုင်ရေး၊ ကျေးလက်ဒေသဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းများကို ဆက်လက်ဆောင်ရွက်ပေးနိုင်ခဲ့ပါသည်။ ကျန်းမာရေးအနေဖြင့်လည်း တိုးတက်လာသောလူဦးရေနှင့် ထိရောက်သောကုသမှုများကို ဆောင်ရွက်နိုင်ရန် ဆေးရုံကိုအသစ်ဖွင့်လှစ်ပေးနိုင်ခဲ့ပါသည်။

၃။ အောက်ပါအချက်များအား လိုက်နာဆောင်ရွက်ထားပါကြောင်း တင်ပြအပ်ပါသည်-

(က) ထုံးကျောက်တူးဖေါ်ခြင်းနှင့် ဘိလပ်မြေလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေး၊ ဒေသခံပြည်သူများဘေးအန္တရာယ်ကျရောက်မှုမရှိစေရေးနှင့် နစ်နာမှုမရှိစေရေးအတွက် လုပ်ငန်းအကောင်အထည်မဖေါ်မီ ပတ်ဝန်းကျင်နှင့် လူမှုရေးအပေါ် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental and Social Impact Accessment - ESIA) လုပ်ငန်းများဆောင်ရွက်ပြီးစီးမှုအစီရင်ခံစာအား ပူးတွဲတင်ပြအပ်ပါသည်။

( ခ) (Environmental and Social Impact Accessment - ESIA) ပတ်ဝန်းကျင်နှင့် လူမှုရေးအပေါ် ထိခိုက်မှုဆန်းစစ်ခြင်းရလဒ်များကို အခြေခံ၍ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းလမ်းများ၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲပြီး EMP အစီအစဉ်အတိုင်းအကောင်အထည်ဖေါ်ဆောင်ရွက်မည့်အစီအမံအား ပူးတွဲတင်ပြအပ်ပါသည်။

( ဂ) နိုင်ငံတော်မှပြဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေတို့နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင်ဆိုင်ရာ ဥပဒေသ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖေါ် ဆောင်ရွက်သွားပါမည်။ ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်) ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်းများဆောင်ရွက်ထားပြီးဖြစ်ပါသည်။

B/E/Desktop/Nu Nu Khin(SM 3)

(ဃ) ဆင်မင်း(၃)ဘိလပ်မြေစီမံကိန်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ဒေသခံပြည်သူများသိရှိနားလည်စေရန် စက်ရုံပတ်ဝန်းကျင်ရှိ ခါတ်တော်၊ သပြေဝန်း၊ ရေပြားတော၊ ဖျောက်ဆိပ်ပင်၊ ကလေး၊ မှိုင်းပန်ကျေးရွာများမှ ဥက္ကဋ္ဌများ၊ ပြည်သူများမှ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်များရရှိပြီးဖြစ်ပါသည်။ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ဝန်ကြီးချုပ်မှ သဘောထားမှတ်ချက်များရရှိပြီးဖြစ်ပါသည်-

(၁) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါ။

(၂) မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါသည်။

(၃) ဖေါ်ပြပါမြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(၄) တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်“ကန့်ကွက်ရန်မရှိပါ”။

B/E/Desktop/Nu Nu Khin(SM 3)






# MYANMA ECONOMIC HOLDINGS LIMITED
## မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

*Reference No.* ဦးပိုင်(ဘဏ္ဍာ)/MIC/၁၃ - ၂၂၆

*Date* ၂၀၁၃ ခုနှစ် မတ်လ ၂၇ ရက်

သို့

မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

အကြောင်းအရာ။ **မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ရှိ ဖွင့်လှစ်ထားသော ဘဏ်စာရင်းများနှင့် ငွေသွင်း/ငွေထုတ် တာဝန်ခံအရာရှိများ၏ ထိုးမြလက်မှတ်များပေးပို့ခြင်း**

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်အနေဖြင့် မြဝတီဘဏ်လီမိတက်၊ MICB နှင့် MFTB တို့တွင် အောက်ဖော်ပြပါ ငွေစာရင်းများ ဖွင့်လှစ်ထားရှိကာ လုပ်ငန်းများဆောင်ရွက်လျက်ရှိပါသည်-

| စဉ် | ဘဏ်အမည် | ငွေစာရင်းအမှတ် |
|---|---|---|
| (က) | မြဝတီဘဏ် | C212U0011000002A |
| (ခ) | မြဝတီဘဏ် | S212U0011000112O |
| (ဂ) | MICB | FDU-10-0003 |
| (ဃ) | MICB | FUT-10-0025 |
| (င) | MFTB | 1DA-04-92119 |
| (စ) | MFTB | 1EE-04-00267 |

၂။ အထက်ပါငွေစာရင်းများအား အောက်ဖော်ပြပါ အရာရှိကြီးများဖြင့် ငွေသွင်း/ငွေထုတ်ဆောင်ရွက်လျက်ရှိကြောင်းနှင့် ဆင်မင်း(၃)ဘီလပ်မြေ ၁၂၀၀ TPD စက်ရုံအတွက် လိုအပ်ငွေအား ထုတ်ယူသုံးစွဲမည်ဖြစ်ကြောင်း လက်မှတ်နမူနာများဖြင့် ပေးပို့အပ်ပါသည်-

(က) ဒုတိယဗိုလ်မှူးကြီးသန်းထွန်း(ငြိမ်း)

(၁) ____________

(၂) ____________

(၃) ____________

HEAD OF DIVISION
MYANMA ECONOMIC HOLDINGS LTD.

CWN-1

(ခ) ဒုတိယဗိုလ်မှူးကြီးသန်းဝင်း(ငြိမ်း)

(၁) ____________________

(၂) ____________________

(၃) ____________________

DIRECTOR

MYANMA ECONOMIC HOLDINGS LTD

(ဂ) ဦးစိန်းနိုင်

(၁) ____________________

(၂) ____________________

(၃) ____________________

GENERAL MANAGER

FINANCE & ACCOUNTS

MYANMA ECONOMIC HOLDINGS LTD.

၁၁၊၃၊၁၃

မန်နေဂျင်းဒါရိုက်တာ (ကိုယ်စား)

(ဒုတိယဗိုလ်မှူးကြီးသန်းဝင်း (ငြိမ်း) ဒါရိုက်တာ၊ ဘဏ္ဍာရေး)

မိတ္တူကို

ဌာနကြီးမှူး၊ အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး၊ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်။

ရုံးလက်ခံ။

မျှောစာတွဲ။



# MYANMA ECONOMIC HOLDINGS LIMITED
မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

Reference No. ဦးပိုင်(ဘဏ္ဍာ)/MIC/၁၃ - ၂၂၆

Date ၂၀၁၃ ခုနှစ် မတ်လ ၂၈ ရက်

သို့

မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

အကြောင်းအရာ။ **မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ရှိ ဖွင့်လှစ်ထားသော ဘဏ်စာရင်းများနှင့် ငွေသွင်း/ငွေထုတ် တာဝန်ခံအရာရှိများ၏ ထိုးမြဲလက်မှတ်များပေးပို့ခြင်း**

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်အနေဖြင့် မြဝတီဘဏ်လီမိတက်၊ MICB နှင့် MFTB တို့တွင် အောက်ဖော်ပြပါ ငွေစာရင်းများ ဖွင့်လှစ်ထားရှိကာ လုပ်ငန်းများဆောင်ရွက်လျက်ရှိပါသည်-

| စဉ် | ဘဏ်အမည် | ငွေစာရင်းအမှတ် |
|---|---|---|
| (က) | မြဝတီဘဏ် | C212U0011000002A |
| (ခ) | မြဝတီဘဏ် | S212U00110001120 |
| (ဂ) | MICB | FDU-10-0003 |
| (ဃ) | MICB | FUT-10-0025 |
| (င) | MFTB | 1DA-04-92119 |
| (စ) | MFTB | 1EE-04-00267 |

၂။ အထက်ပါငွေစာရင်းများအား အောက်ဖော်ပြပါ အရာရှိကြီးများဖြင့် ငွေသွင်း/ငွေထုတ်ဆောင်ရွက်လျက်ရှိကြောင်းနှင့် ဆင်မင်း(၃)ဘီလစ်မြေ ၁၂၀၀ TPD စက်ရုံအတွက် လိုအပ်ငွေအား ထုတ်ယူသုံးစွဲမည်ဖြစ်ကြောင်း လက်မှတ်နမူနာများဖြင့် ပေးပို့အပ်ပါသည်-

(က) ဒုတိယဗိုလ်မှူးကြီးသန်းထွန်း(ငြိမ်း)

(၁) ____________________

(၂) ____________________

(၃) ____________________

HEAD OF DIVISION

(ခ) ဒုတိယဗိုလ်မှူးကြီးသန်းဝင်း(ငြိမ်း)

(၁) ____________

(၂) ____________

(၃) DIRECTOR

MYANMA ECONOMIC HOLDINGS LTD.

(ဂ) ဦးစိန်းနိုင်

(၁) ____________

(၂) ____________

(၃) GENERAL MANAGER

FINANCE & ACCOUNTS

MYANMA ECONOMIC HOLDINGS LTD.

မန်နေဂျင်းဒါရိုက်တာ (ကိုယ်စား)

(ဒုတိယဗိုလ်မှူးကြီးသန်းဝင်း (ငြိမ်း) ဒါရိုက်တာ၊ ဘဏ္ဍာရေး)

မိတ္တူကို

ဌာနကြီးမှူး၊ အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး၊ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်။

ရုံးလက်ခံ။

မျှောစာတွဲ။

၂၀၁၇
၁၃.၃.၂၀၁၃



MYANMA ECONOMIC HOLDINGS LIMITED

မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

Reference No. ဦးပိုင်/ဆင်မင်း-၃/ထွေ(၀၅၃ /၂၀၁၃)

Date ၂၀၁၃ ခုနှစ် မတ်လ (၁၃)ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **ဆင်မင်း(၃)1200 tpd (Dry) Add On ဘိလပ်မြေစက်ရုံတွင် တပ်ဆင်သည့် စက်ကြီးများ၏ အချက်အလက်များပေးပို့ခြင်း**

ကျောက်ဆည်၊ ဆင်မင်း(၃)1200 tpd (Dry) Add On ဘိလပ်မြေစက်ရုံတည်ဆောက်ခြင်း စီမံကိန်းတွင် တပ်ဆင်ထားသော ဖော်ပြပါစက်အစိတ်အပိုင်း(၆)ခု၏ စက်ပိုင်းဆိုင်ရာ Type, Size, Capacity, Size of Output, Feeding Size, Motor Type, Power များအား ပူးတွဲတင်ပြအပ်ပါသည်-

(က) Limestone Jaw Crusher

(ခ) Limestone Hammer Crusher

(ဂ) Coal Mill

(ဃ) Raw Mill

(င) Cement Mill

(စ) Rotary Kiln

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)
ဒုတိယဗိုလ်မှူးကြီး သန်းထွန်း(ငြိမ်း)
ဌာနကြီးမှူး၊ အထွေထွေအုပ်ချုပ်ရေးဌာနကြီး

မိတ္တူကို

- ရုံးလက်ခံ/မျှောစာတွဲ

# Main Equipment for Sin-Min (3) Cement

2013.3.8

| | Limestone Jaw Crusher | Limestone hammer Crusher | Coal Mill | Raw Mill | Cement Mill | Rotary Kiln |
|---|---|---|---|---|---|---|
| Type | PE-1200×1500 | PCF2018 | Φ3.0×(6+3)m | Φ3.8×8.6m | Φ3.2×13m | Φ3.6×52m |
| Size | 1200X1500 | φ2020X1993 | Φ3.0×(6+3)m | Φ3.8×8.6m | 2×Φ3.2×13m | Φ3.6×52m |
| Capacity | 300-500 $m^3$/h | 400～500t/h | ≥16-18t/h | 90-120t/h | 2×40t/h | 1650t/d |
| Size of output | 200mm | ≤25mm | 0.08mm<3-5% | 0.08<12%-14% | 3200-3400$cm^2$/g | / |
| Feeding size | ≤1000×800mm | 200mm | ≤25mm | ≤25mm | ≤20mm | / |
| Motor Type | YR355L2-8 | YRKK560-6 | YRKK560-8 | YR1600-8/1430 | YR1600-8/1430 | ZSN4-315-012 |
| Power | 185KW | 710KW | 630kw | 1600 kw | 1600kw | 250KW |





# MYANMA ECONOMIC HOLDINGS LIMITED
## မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.


Reference No ၃/၈/အခရ/ပိုင် (၉၅၆ /၂၀၁၃)

Date ၂၀၁၃ ခုနှစ်၊ မတ်လ ၁၄ ရက်

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

အကြောင်းအရာ။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီဆောင်ရွက်မည့် အစီအစဉ်များတင်ပြခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄-၃-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၃၀၉/၂၀၁၃(၂၈၈၉)

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ အင်းတကော်ကျေးရွာ၊ အင်းတကော်စက်မှုနယ်မြေတွင် မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြခဲ့ရာ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရမည့်အချက်များကို ဖော်ပြလျက် လိုက်နာဆောင်ရွက်မည့်အစီအစဉ်များကို ကော်မရှင်သို့ ပြန်လည်တင်ပြရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည့် အစီအစဉ်များကို ဤစာနှင့်အတူ ပူးတွဲတင်ပြအပ်ပါသည်။

မန်နေဂျင်းဒါရိုက်တာ (ကိုယ်စား)
ဒုတိယဗိုလ်မှူးကြီးသန်းထွန်း(ငြိမ်း)၊ ဌာနကြီးမှူး

မိတ္တူကို
ရုံးလက်ခံ
မျှောစာတွဲ

ပူးတွဲ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များကို လိုက်နာဆောင်ရွက်မည့်အစီအစဉ်များ

ရက်စွဲ - ၁၃. ၃. ၂၀၁၃

| စဉ် | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များ | လိုက်နာဆောင်ရွက်မည့်အစီအစဉ်များ |
|---|---|---|
| ၁ | စက်ရုံပတ်ဝန်းကျင်သန့်ရှင်း ကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ်များ၊ စွန့်ပစ်ပစ္စည်းအစီအမံများ၊ စက်ရုံပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေးအတွက် သစ်ပင်များစိုက်ပျိုးထားရှိရန်၊ လုပ်ငန်းခွင် လေကောင်းလေသန့် ရရှိစေရေး စီမံဆောင်ရွက်ရန်။ | (က) စက်ရုံသည် ပတ်ဝန်းကျင်ရှိ မြေမျက်နှာပြင်အထက် (၂၀)ပေခန့်မြင့်သော ကုန်းပြင်မြင့်ပေါ်တွင် တည်ရှိသည့်အပြင် စက်ရုံဝင်းအတွင်း အကျယ် (၂)ပေ (၆)လက်မနှင့် ပျမ်းမျှအနက် (၄)ပေ (၆)လက်မ ရှိသော ရေနုတ်မြောင်း အလျား (၁၈၀၀၀)ပေ တည်ဆောက်ထားပါသည်။<br>(ခ) စက်ရုံမှထွက်ရှိသော စွန့်ပစ်ပစ္စည်းမရှိပါ။<br>(ဂ) စက်ရုံပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေးအတွက် မြက်ခင်းဧရိယာ (၂၅၀၀)ကျင်း၊ ကုက္ကိုပင် (၁၃၁)ပင်၊ ရေတမာပင် (၁၁၅)ပင်၊ ခရေပင် (၂၆၇)ပင်၊ ပိတောက်ပင် (၃၀)ပင်၊ စိန်ပန်းပင် (၄၀)ပင်နှင့် ပန်းအလှ (၂၅၀)ပင် စိုက်ပျိုးထားရှိပြီးဖြစ်ပါသည်။<br>(ဃ) စက်ရုံများသည် ကုန်းပြင်မြင့်ပေါ်တွင် တည်ရှိသည့်အပြင် စက်ရုံတစ်ခုချင်း၏အမြင့်မှာ (၃၄. ၄၅)ပေ ရှိသဖြင့် လေကောင်းလေသန့် ကောင်းစွာရရှိပါသည်။ |
| ၂ | အဆိုပါလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် နည်းပညာများ၊ နည်းလမ်းများကို အသုံးပြုရန်။ | စက်ရုံသည် ပဲခူးမြို့မှ (၁၄)မိုင်အကွာနှင့် အနီးဆုံးကျေးရွာ ဖြစ်သော အင်းတကော်ကျေးရွာမှ (၁. ၅)မိုင်ခန့် ကွာဝေးခြင်း၊ ကုန်ထုတ်လုပ်မှုအနေနှင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ တင်သွင်းသည့် SKD အစိတ်အပိုင်းများကို တပ်ဆင်ခြင်းသာဖြစ်၍ စွန့်ပစ်ဓာတုဗေဒပစ္စည်းများ၊ မီးခိုးများ၊ အခြားဓာတ်ငွေ့များ၊ ဆူညံသံများ မထွက်ရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးများ ထိခိုက်ပျက်စီးမှုမရှိနိုင်ပါ။ |

| စဉ် | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များ | လိုက်နာဆောင်ရွက်မည့်အစီအစဉ်များ |
|---|---|---|
| ၃ | မော်တော်ကား ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၃၀. ၁. ၂၀၁၃ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၁/၂၀၁၃အရ ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination – IEE)၊ ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) (Social Impact Assessment – SIA) တို့ကို ဆောင်ရွက်ပြီးမှသာ စိစစ်ခွင့်ပြုရန်၊ အဆိုပါ အစီရင်ခံစာပေါ်တွင် မူတည်၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan – EMP) ကို အသေးစိတ် ရေးဆွဲတင်ပြ၍ တိကျစွာ လိုက်နာဆောင်ရွက်ရန်။ | ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination – IEE)၊ ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) (Social Impact Assessment – SIA) နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan – EMP) များကို သဘာဝပတ်ဝန်းကျင်ဆိုင်ရာလုပ်ငန်း အတွေ့အကြုံ ရှိသည့် Engineering Consultant လုပ်ငန်းဆောင်ရွက်လျက်ရှိသော Kaung Kyaw Say Co.,Ltd. သို့ ၁၂. ၃. ၂၀၁၃ နေ့တွင် စရံငွေပေးအပ်ပြီး လုပ်ငန်းအပ်နှံဆောင်ရွက်လျက်ရှိပါသည်။ ကုမ္ပဏီအနေနှင့် အဆိုပါ အစီရင်ခံစာနှင့် စီမံချက်များကို (၂)လအတွင်း အပြီးတာဝန်ယူ ဆောင်ရွက်သွားမည် ဖြစ်ပါသည်။ |
| ၄ | နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေနှင့် အခြား ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းတို့နှင့်အညီ လိုက်နာဆောင်ရွက်ရန်။ | ဂရုပြုလိုက်နာဆောင်ရွက်သွားပါမည်။ |



**MYANMA ECONOMIC HOLDINGS LIMITED**
**မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်**


Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.


Reference No. ဦးပိုင်/ဆင်မင်း-၃/ထွေ( ၀၄၂ /၂၀၁၃)

Date ၂၀၁၃ခုနှစ်ဖေဖော်ဝါရီလ(၂၈)ရက်

သို့

သက်ဆိုင်ရာ

အကြောင်းအရာ ။ **ဆင်မင်း(၃)ဘိလပ်မြေစက်ရုံစီမံကိန်းချေးငွေ ယူရို(၁၀)သန်းပေးချေရမည့်ကိစ္စတင်ပြခြင်း**

၁။ ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ တည်ဆောက်ရေးစီမံကိန်း၌ မတည်ငွေရင်းပမာဏတွင် ထည့်ဝင်ငွေ ကျပ်သန်း(၂၇၄၀)နှင့် ယူရို(၂၅.၆)သန်းအနက် ထည့်ဝင်ငွေယူရို(၁၅.၆)သန်းနှင့် ချေးငွေယူရို(၁၀)သန်းဖြစ်ရာ ချေးငွေ ယူရို(၁၀)သန်းအား (၁)ယူရိုလျှင် တရုတ်ယွမ်(၉.၃)နှုန်းဖြင့် တရုတ်ယွမ်စုစုပေါင်း ¥ ၉၃၀၀၀၀၀၀ ပေးချေရမည် ဖြစ်ပါသည်။

၂။ ထိုကဲ့သို့ စုစုပေါင်း တရုတ်ယွမ် ၉၃၀၀၀၀၀၀ ပေးချေရာတွင် တစ်နှစ်လျှင် အတိုးနှုန်း ၂%ဖြင့် လေးနှစ်အတွင်း (၁၆)ကြိမ်ခွဲပေးချေရမည်ဖြစ်သဖြင့် အတိုးတရုတ်ယွမ် ၅၃၄၇၅၀၀ အပါအဝင် စုစုပေါင်းတရုတ်ယွမ် ၉၈၃၄၇၅၀၀ (တိုး + ရင်း)ကို China Mianyang Hi-Wish Trading Co.,Ltd သို့ ပူးတွဲပါအတိုင်း ပေးချေရမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

ဒုတိယဗိုလ်မှူးကြီးလှစိန်(ငြိမ်း)
စက်ရုံမှူး၊ ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ

မိတ္တူကို
- ရုံးလက်ခံ/မျှောစာတွဲ

# Deferred Payment Agreement

# for Sin-Min(3) Cement Plant in Myanmar

1 As for the remaining cost of the TECHNOLOGY EQUIPMENT in ARTICLE 7-3 of the **Said Contract** amount EURO 10,000,000.00 (Europe Union Euro: ten million only) ,shall be paid as deferred payment, but it would be paid by china Ren Min Bi (RMB) Yuan. The payment account of china Ren Min Bi (RMB) Yuan · s value would be ninety-three million Yuan only (¥93,000,000). the deferred payment shall be paid within 4(four)years, wish due interest of 2.0% per annual. payment shall be paid in consecutive and equally divided quarterly, totally 16 (sixteen) terms. The interest shall be counted from the date of 1 (one) month commencing from the date of the bill of lading of the first shipment .

2 The Union of Myanmar Economic Holdings Ltd. shall make payment of deferred instalment as per the following payment schedule

| Instalments | Full Month From Commencing Product Cement | Payment (RMB) | | |
|---|---|---|---|---|
| | | Cost | Interest | Amount |
| 1 | 2 | ¥5,812,500 | ¥1,860,000 | ¥7,672,500 |
| 2 | 5 | ¥5,812,500 | ¥435,937.5 | ¥6,248,437.5 |
| 3 | 8 | ¥5,812,500 | ¥406,875 | ¥6,219,375 |





| | | | | |
|---|---|---|---|---|
| 4 | 11 | ¥5,812,500 | ¥377,812.5 | ¥6,190,312.5 |
| 5 | 14 | ¥5,812,500 | ¥348,750 | ¥6,161,250 |
| 6 | 17 | ¥5,812,500 | ¥319,687.5 | ¥6,132,187.5 |
| 7 | 20 | ¥5,812,500 | ¥290,625 | ¥6,103,125 |
| 8 | 23 | ¥5,812,500 | ¥261,562.5 | ¥6,074,062.5 |
| 9 | 26 | ¥5,812,500 | ¥232,500 | ¥6,045,000 |
| 10 | 29 | ¥5,812,500 | ¥203,437.5 | ¥6,015,937.5 |
| 11 | 32 | ¥5,812,500 | ¥174,375 | ¥5,986,875 |
| 12 | 35 | ¥5,812,500 | ¥145,312.5 | ¥5,957,812.5 |
| 13 | 38 | ¥5,812,500 | ¥116,250 | ¥5,928,750 |
| 14 | 41 | ¥5,812,500 | ¥87,187.5 | ¥5,899,687.5 |
| 15 | 44 | ¥5,812,500 | ¥58,125 | ¥5,870,625 |
| 16 | 47 | ¥5,812,500 | ¥29,062.5 | ¥5,841,562.5 |
| 17 | Total | ¥93,000,000 | ¥5,347,500 | ¥98,347,500 |

The SELLER agree can be paid in equivalent amount of Kyats or cement and the money exchange rate on the date of payment

3 No payment under this AGREEMENT shall be delayed or withheld by the **Purchaser**.

4 The **Purchaser**'s obligation to pay deferred payment and due interest shall be absolute and unconditional even if under the condition that the occurrence of the Force Majeure stipulated in Article 9 happens after acceptance of the **Said Plant**.











# MYANMA ECONOMIC HOLDINGS LIMITED
မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

*Reference No.* ဦးပိုင်/ဆင်မင်း/ထွေ (၀၃၀ /၂၀၁၃)

*Date* ၂၀၁၃ခုနှစ်ဇန်နဝါရီလ( ၉ )ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

အကြောင်းအရာ။ **မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၏ ဆင်မင်း(၃)ဘီလပ်မြေစက်ရုံတည်ဆောက်ခြင်း စီမံကိန်းနှင့်ပတ်သတ်၍ ရင်းနှီးမြှုပ်နှံလိုသူ၏ကတိဝန်ခံချက် တင်ပြခြင်း**

၁။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူတစ်ဦးတစ်ယောက်မှပိုင်ဆိုင်မှု မရှိကြောင်း ဝန်ခံကတိပြုပါသည်။

၂။ ကော်မရှင်မှလုပ်ငန်းတွင် အသုံးပြုရန်အတွက် တင်သွင်းခွင့်ပြုထားသည့်စက်ကိရိယာ၊ လုပ်ငန်းသုံးပစ္စည်းနှင့် အခြားပစ္စည်းများကို ကော်မရှင်မှခွင့်ပြုသည့် အဆိုပြုလုပ်ငန်းအတွက်သာအသုံးပြုမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၃။ ပြည်ပမှစက်ပစ္စည်းကိရိယာများ၊ စက်အရံပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့်အခြား ပစ္စည်းများကို ချေးငွေစနစ်ဖြင့်ဝယ်ယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့်သက်ဆိုင်ခြင်းမရှိဘဲ ချေးငှားသူနှင့်ချေးယူသူတို့၏ တာဝန်သာဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၄။ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု၊ မီးဘေး အန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို သက်ဆိုင်ရာဌာနများ၏ ညွှန်ကြားချက်နှင့်အညီ စနစ်တကျထားရှိဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြု ပါသည်။

၅။ လုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်မှသတ်မှတ်ပြဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၆။ အဆိုပါလုပ်ငန်းအတွက် တည်ဆောက်မည့်စက်ရုံအဆောက်အဦးများနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ နိုင်ငံတော်အာဏာပိုင်အဖွဲ့အစည်းများမှသတ်မှတ်ထားသည့် စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက် မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၇။ ဘိလပ်မြေထုတ်လုပ်ခြင်းနှင့်ပတ်သတ်၍ ထုတ်လုပ်သည့်နည်းစနစ်ကို တစ်နှစ်ထက်တစ်နှစ် ကောင်းမွန်အောင်ပြုပြင်ဆောင်ရွက်ပြီး စံချိန်မီဘိလပ်မြေများကို ထုတ်လုပ်ရန်စီစဉ်ပါမည်။

၈။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အခါအားလျော်စွာချမှတ်ထုတ်ပြန်ထားသော စည်းမျဉ်း စည်းကမ်းများကို သိရှိလိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်းနှင့် အထက်ဖော်ပြပါကတိပြုချက်များကို လိုက်နာဆောင်ရွက်ခြင်းမရှိပါက ဆောင်ရွက်လျက်ရှိသည့်စက်ရုံအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြစ်ဒဏ်များချမှတ်ခံရမည်ကို သိရှိနားလည်ကြောင်းဝန်ခံကတိပြုပါသည်။

| | | | |
|---|---|---|---|
| လက်မှတ် | | ကုမ္ပဏီအမည် | မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် |
| အမည် | ဒုတိယဗိုလ်မှူးကြီးသန်းထွန်း(ငြိမ်း) | လိပ်စာ/ဖုန်း | ၀၁.၃၉၇၄၇၂ |
| ရာထူး | ဌာနကြီးမှူး<br>အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး | နေ့စွဲ | ၁၀.၁.၂၀၁၃ |

အသိသက်သေ

| | | | |
|---|---|---|---|
| လက်မှတ် | | ကုမ္ပဏီအမည် | ဆင်မင်းဘိလပ်မြေစက်ရုံ |
| အမည် | ဒုတိယဗိုလ်မှူးကြီးလှစိန်(ငြိမ်း) | လိပ်စာ/ဖုန်း | ၀၆၆.၅၀၄၇၅၊ ၀၆၆.၅၀၄၈၉ |
| ရာထူး | စက်ရုံမှူး | နေ့စွဲ | ၁၀.၁.၂၀၁၃ |



# MYANMA ECONOMIC HOLDINGS LIMITED
## မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်


Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.


*Reference No.* ဦးပိုင်/ဆင်မင်း-၃/ထွေ( ၈၇၈ /၂၀၁၃)

*Date* ၂၀၁၃ ခုနှစ် မတ်လ (၁၅ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **ထုတ်ကုန်တံဆိပ်အမှတ်အသား မှတ်ပုံတင်ခြင်းကိစ္စ**

ကျောက်ဆည်၊ ဆင်မင်း(၃)1200 tpd (Dry) Add On ဘိလပ်မြေစက်ရုံ တည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပါတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာတင်ပြဆောင်ရွက်လျှက်ရှိပါသည်။ ဘိလပ်မြေစက်ရုံတည်ဆောက်ပြီးပါက ပူးတွဲပါ ဆင်မင်းဘိလပ်မြေတံဆိပ်အမှတ်အသားကို စာချုပ်စာတမ်းများ မှတ်ပုံတင်ရုံးတွင် မှတ်ပုံတင်သွင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

ဒုတိယဗိုလ်မှူးကြီးလှစိန်(ငြိမ်း)
စက်ရုံမှူး၊ ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ

မိတ္တူကို
- ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ(ခ)

# SIN MINN

**BEST QUALITY**
**CEMENT**



SIN MINN
BEST QUALITY
CEMENT







BEST QUALITY
CEMENT
SIN MINN



PRODUCT OF MYANMAR

**NET WEIGHT 50 kg.**



DISTRIBUTED BY SHWE MYITTA CEMENT TRADING

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြု တင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ် စာချုပ်မူကြမ်း ( လိုအပ်သည့် ကိစ္စတွင် )

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊

(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ ဖွဲ့စည်းခြင်း မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ၊

လက်မှတ်၊ ........................

အမည်၊ ဗိုလ်ချုပ် ဇာနည်ဝင်း

ရာထူး၊ ဦးဆောင်ညွှန်ကြားရေးမှူး

( လျှောက်ထားသူ )

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ /၂၀၁၃ (မနသ)

၂၀၁၃ ခုနှစ် မတ် လ ရက်

၁။ Myanma Economic Holdings Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးရှိ မြေ (၂၅၂.၃၇)ဧက အနက် (၂၂.၂၃)ဧက တွင် တစ်ရက်လျှင် ဘိလပ်မြေ တန်(၁၂၀၀)ကျ TPD (Dry) ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၀-၃-၂၀၁၃)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၁၃) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် Myanma Economic Holdings Ltd. အား တစ်ရက်လျှင် ဘိလပ်မြေ တန်(၁၂၀၀)ကျ TPD (Dry) ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၉၉ /၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ Myanma Economic Holdings Ltd. အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် နှင့် ယင်းဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန် လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေ ထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤ ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ စက်ပစ္စည်း သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်း များအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည့်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့် နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်း ထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင် သည့် အမှတ်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန် ပစ္စည်း၊ စက်ကိရိယာအစိတ်အပိုင်း၊ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် အကောက် ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် ဥပဒေပုဒ်မ ၁၃(ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ နှင့်ပတ်သက်၍ တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် လိုက်နာဆောင်ရွက်ရမည်။

၄။ Myanma Economic Holdings Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ Myanma Economic Holdings Ltd. သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ Myanma Economic Holdings Ltd. သည် လျှပ်စစ်ဓါတ်အားရယူမှု၊ ထုတ်လုပ်မှု နည်းပညာ၊ ထုတ်လုပ်မှု အရည်အသွေး၊ Trade Mark ကုန်ပစ္စည်း အမှတ်တံဆိပ် အမည်၊ အမှတ် အသား၊ ဈေးကွက်ပိုင်းဆိုင်ရာတို့နှင့်စပ်လျဉ်း၍ အဆိုပြုချက်တွင်တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ၄င်းအပြင် သက်ဆိုင်ရာ ဌာနများ၏ ညွှန်ကြားချက်များ အတိုင်း လိုက်နာဆောင်ရွက်ရမည်။

၈။ Myanma Economic Holdings Ltd. မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင် နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယား စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြ ထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၉။ Myanma Economic Holdings Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံ များကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြား သော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤ ကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၀။ Myanma Economic Holdings Ltd. သည် အဆိုပြုချက်တွင် ဝန်ခံကတိ ပြုထားသည့်အတိုင်း ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၁။ Myanma Economic Holdings Ltd. သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၃။ Myanma Economic Holdings Ltd. မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၄။ အဆိုပြု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်း စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်) နှစ် အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(စိုးသိန်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က) /မ- ၁၂၉၉/၂၀၁၃(            )

ရက် စွဲ ၊ ၂၀၁၃ ခုနှစ် မတ် လ        ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ဆက်သွယ်ရေး၊ သတင်းအချက် အလက်နှင့် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ကျန်းမာရေးဝန်ကြီးဌာန

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ မန္တလေးမြို့

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသား မှတ်ပုံတင်ရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

အုပ်ချုပ်မှုဒါရိုက်တာ၊ Myanma Economic Holdings Ltd.

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကာ-၆(က)/မ-၁၂၉၉/၂၀၁၃(၃မြ၉-၈)

ရက်စွဲ၊ ၂၀၁၃ ခုနှစ် မတ် လ ၁၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Myanma Economic Holdings Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးတွင် တစ်ရက်လျှင် တန် (၁၂၀၀)ကျ TPD (Dry) ဆင်မင်း(၃)ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Myanma Economic Holdings Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးရှိ မြေ (၂၅၂.၃၇)ဧက အနက် (၂၂.၂၃)ဧကတွင် တစ်ရက်လျှင် ဘိလပ်မြေ တန်(၁၂၀၀)ကျ TPD (Dry) Add on ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကို လက်ခံရရှိခဲ့ပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်နှင့် စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့၊ စက်မှုဝန်ကြီးဌာန၊ သတ္တုတွင်းဝန်ကြီးဌာနနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ (နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် သို့မဟုတ် လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်မှု မရှိပါကြောင်း၊

(၂) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ကိုက်ညီမှု ရှိပါကြောင်း၊

(၃) ဖော်ပြပါ မြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့ အရ လက်ခံနိုင်ပါကြောင်း၊

(၄) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အကြံပြုရန် မရှိပါကြောင်း၊

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီး ဌာန (နောက်ဆက်တွဲ-ခ)**

(၁) ထုံးကျောက် တူးဖော်ခြင်းနှင့် ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရေး၊ ဒေသခံ ပြည်သူများ ဘေးအန္တရာယ် ကျရောက်မှု မရှိစေရေးနှင့် နစ်နာမှု မရှိစေရေးအတွက် လုပ်ငန်းအကောင်အထည် မဖော်မီ ပတ်ဝန်းကျင် နှင့် လူမှုရေးအပေါ် ထိခိုက်မှု ဆန်းစစ်ခြင်း ( Environmental and Social Impact Assessment - ESIA) လုပ်ငန်းများ

ထုတ်ယူ သုံးစွဲမည်ဖြစ်ပြီး ဂေါ်ဒန်ကျောက်ကို သီပေါမြို့နယ်ရှိ သတ္တု(၃)မိုင်းမှ ဝယ်ယူ သုံးစွဲမည် ဖြစ်ပါကြောင်း၊

(၄) ဘိလပ်မြေစက်ရုံကို Computer Control စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး တစ်နေ့တန် ၁၂၀၀ Add on လုပ်ငန်းအတွက် Impact Hammer Crusher, Jaw Crusher ကုန်ကြမ်းကြိတ်စက် Shaft Raw Mill, Coal Mill တို့ပါဝင် သော်လည်း စက်စွမ်းအားများ အသေးစိတ် ဖော်ပြထားခြင်း မရှိပါကြောင်း၊

( အထက် အပိုဒ်ခွဲ-၄ ပါ ကိစ္စနှင့်စပ်လျဉ်း၍ ကုမ္ပဏီမှ အသုံးပြုမည့် စက်များ၏ Capacity ကို ပြန်လည် တင်ပြထားပါသည်။)

(၅) ကုန်ကြမ်း လိုအပ်ချက် နှင့် ကုန်ချော ထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိပါကြောင်း၊

(၆) နှစ်စဉ် ထုတ်လုပ်မှု နှင့် စက်အင်အား/လူအင်အား အချိုးအစား ညီမျှမှု ရှိပါကြောင်း၊

(၇) ထုတ်လုပ်မှုနှုန်းများ တင်ပြထားရှိမှု နှင့် ဈေးနှုန်း တင်ပြထားမှုများ ဆီလျော်မှု ရှိပါကြောင်း၊

(၈) ပတ်ဝန်းကျင် လေထုညစ်ညမ်းမှု မဖြစ်ပေါ်စေရေး သတိပြု ဆောင်ရွက်ရန်နှင့် သက်ဆိုင်ရာ ဒေသဌာန အဖွဲ့အစည်းများ နှင့် ပတ်ဝန်းကျင်တွင် နေထိုင်သူများ၏ သဘောထားများ ရယူဆောင်ရွက်သင့်ပါကြောင်း၊

(ဃ) **သတ္တုတွင်း ဝန်ကြီးဌာန (နောက်ဆက်တွဲ-ဃ)**

(၁) Myanma Economic Holdings Ltd. မှ တစ်ရက်လျှင် တန်(၁၂၀၀) ကျ TDP (Dry) Add On ဆင်မင်း(၃) ဘိလပ်မြေစက်ရုံအတွက် တစ်နှစ် ကုန်ကြမ်း လိုအပ်ချက်နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်-

(ကက) ထုံးကျောက် တစ်နှစ် လိုအပ်ချက် လျာထားတန်ချိန် (၅၄၃,၄၇၇)တန်အား မန္တလေးတိုင်း ဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ နွားလည်ကောက်တောင်၊ မြောက်ဘက်ခြမ်း လုပ်ကွက် ဧရိယာ (၂၁၆)ဧက၊ ကျောက်ဆည်မြို့နယ်၊ ရဲဘော်ကြီးကျေးရွာအုပ်စု၊ ကျောက်ပုခက်တောင် လုပ်ကွက် ဧရိယာ (၁၄၁.၂၅)ဧက လုပ်ကွက်(၂)ကွက်တို့မှ ထုတ်ယူနိုင်ပါကြောင်း၊

(ခခ) ကျောက်မီးသွေး တစ်နှစ် လိုအပ်ချက် တန်ချိန်(၄၂,၃၄၈)အား ကလေးဝ မြို့နယ်၊ ကျောက်အုံချောင်းဒေသ၊ ဧရိယာ(၅၁၆၅)ဧက လုပ်ကွက်မှ ထုတ်ယူ နိုင်ပါကြောင်း၊

(ဂဂ) ဂေါ်ဒန်ကျောက် တန်ချိန် (၁,၂၄၈.၄၀)တန်အား သီပေါမြို့မှ ဝယ်ယူ သုံးစွဲ နိုင်ပါကြောင်း၊

(ဃဃ) သံကျောက် တန်ချိန် (၄,၈၇၃.၇၀)တန်အား မန္တလေးတိုင်း ဒေသကြီး၊ ပြင်ဦးလွင်မြို့နယ်၊ အင်ယားကျေးရွာအုပ်စု ဧရိယာ(၁၈၀)ဧက လုပ်ကွက်မှ ထုတ်ယူနိုင်ပါကြောင်း၊

(ငင) မြေစေး တန်ချိန် (၅၈,၅၀၅.၄၀)တန်အား နွားလည်ကောက်တောင် အနီးဝန်းကျင်မှ ရယူသုံးစွဲနိုင်ပါကြောင်း၊

၃။ လုပ်ငန်း အဆိုပြုချက်ကို **(နောက်ဆက်တွဲ - င)**ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ **Euro (၂၅.၆၀)သန်း အပါအဝင် ကျပ် (၂၈၃၄၀.၀၀) သန်း** ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| (က) | ငွေသား | ကျပ် | ၁၅၀၀.၀၀ သန်း | |
| (ခ) | စက်ပစ္စည်းကိရိယာများ | ကျပ် | ၁၇၈၀၀.၀၀ သန်း | (Euro ၁၇.၈ သန်း ) |
| (ဂ) | စက်ရုံ အဆောက်အဦ | ကျပ် | ၆၇၄၀.၀၀ သန်း | (Euro ၆.၇၄ သန်း ) |
| | - မြေတန်ဖိုး | ကျပ် | ၁.၀၀ သန်း | |
| | - လမ်းတန်ဖိုး | ကျပ် | ၈၅၀.၀၀ သန်း | |
| | - လျှပ်စစ်လိုင်းတန်ဖိုး | ကျပ် | ၁၆၆.၀၀ သန်း | |
| (ဃ) | ရုံးသုံးပရိဘောဂတန်ဖိုး | ကျပ် | ၃.၀၀ သန်း | |
| (င) | ကုန်ကြမ်းပစ္စည်းတန်ဖိုး | ကျပ် | ၂၂၀.၀၀ သန်း | |
| (စ) | ကျွမ်းကျင်မှုနည်းပညာ ရပ်တန်ဖိုး | ကျပ် | ၁၀၆၀.၀၀ သန်း | (Euro ၁.၀၆ သန်း ) |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ်** | **၂၈၃၄၀.၀၀ သန်း** | **(US$ ၂၅.၆၀သန်း အပါအဝင်)** |

၄။ Myanma Economic Holdings Ltd. နှင့် China Mianyang Hi-Wish Trading Co., Ltd. တို့ စက်ပစ္စည်းကိရိယာများ ဝယ်ယူမှု၊ စက်ရုံအဆောက်အဦများဆောက်လုပ်မှု၊ နည်းပညာရပ်ပိုင်းဆိုင်ရာတို့အပေါ် လုပ်ငန်းသဘောတူ ချုပ်ဆိုထားသည့် စာချုပ်တင်ပြထားပါသည်။

၅။ Myanma Economic Holdings Ltd. သည် China Mianyang Hi-Wish Trading Co., Ltd. ထံမှ Turn Key စနစ်ဖြင့် Euro(၁၀)သန်း ချေးယူမည်ဖြစ်ရာ ချေးငွေ ပြန်လည် ပေးဆပ်ရာတွင် (၁) Euroလျှင် တရုတ်ယွမ်(၉.၃)နှုန်းဖြင့် စုစုပေါင်း တရုတ်ယွမ် (၉၃,၀၀၀,၀၀၀) ပေးချေရမည် ဖြစ်ပါကြောင်း၊ တစ်နှစ်လျှင် အတိုးနှုန်း ၂ % ဖြင့် (၄)နှစ်အတွင်း (၁၆) ကြိမ် ခွဲ၍ အတိုး၊ အရင်း စုစုပေါင်း တရုတ်ယွမ် (၉၈,၃၄၇,၅၀၀)ပေးချေရမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၆။ ကုမ္ပဏီမှ ဓါတ်အားခွဲရုံနှင့် ဓါတ်အားလိုင်းများအား ၃၃ ကေဗွီသီးခြားဓါတ်အားလိုင်း၊ ၃၃/၁၀.၅ ကေဗွီ (၁)လုံး၊ ၃၃/၀.၄ ကေဗွီ (၅၀)ကေဗွီအေ (၁)လုံး နှင့် kVar Capacitor Bank(၂) လုံးအား လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် တည်ဆောက်၍ ကိုယ်ပိုင် လျှပ်စစ်ဓါတ်အား ထုတ်ယူ သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ဘိလပ်မြေများကို TDP (Dry)Add On နည်းဖြင့် ထုတ်လုပ်မည်ဖြစ်ပြီး ပြည်တွင်းတွင် (၁၀၀%) ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(၅)နှစ်မြောက်တွင် တန်(၃၃၉,၈၄၀) ထုတ်လုပ်မည်ဖြစ်ပြီး တစ်တန် ရောင်းဈေးနှုန်းမှာ (၇၀,၀၀၀)ကျပ် ဖြစ်ပါသည်။

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေ မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**ကျပ်/သန်း**

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၂၃,၇၈၈.၀၀ |
| (ခ) | အသုံးစရိတ် | ၁၈၃၄၅.၀၀ |
| (ဂ) | အသားတင်အမြတ် | ၅၄၄၃.၀၀ |

၉။ နိုင်ငံတော်မှ ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ် လုပ်ငန်းခွန် ကျပ် (၁၁၈၉.၀၀) သန်း၊ ဝင်ငွေခွန် ကျပ် (၁၈၁၄.၀၀) သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ် နှင့် (၂)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ (၂၃.၈၉)ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၀။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၅၅၀)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ဝန်ထမ်း သက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် ဝန်ထမ်းများ သတ်မှတ်လစာနှုန်း ပြည့်ဝစွာ ရရှိရေး ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ သာရေးနာရေး အကျိုးခံစားခွင့်ပြုမည် ဖြစ်ပါကြောင်း၊ ငွေချေးငှားခြင်း၊ ဝတ်စုံထုတ်ပေးခြင်း၊ ပျော်ပွဲရွှင်ပွဲကျင်းပပေးခြင်း၊ ရက်မပျက် ဆုပေးမှုစီစဉ်ပေးခြင်း၊ စားသောက်ရေး စီစဉ်ပေးခြင်း၊ နေထိုင်မှု နှင့် သက်သာချောင်ချိရေး ဆောင်ရွက်ပေးခြင်း၊ ပညာရေး ပိုင်းဆိုင်ရာ ဖွင့်လှစ်ပေးခြင်းတို့ ဆောင်ရွက်ပေးမည် ဖြစ်ပါကြောင်း၊ အလုပ်သမားများကို ဥပဒေနှင့်အညီ လုပ်ကိုင် ဆောင်ရွက်စေပြီး တည်ဆဲ ဥပဒေများ လိုက်နာစေရန် ဆောင်ရွက် ထားမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၁။ ကုမ္ပဏီမှ ထုတ်လုပ်မည့် ဘိလပ်မြေ၏ အမှတ်တံဆိပ်အား ဆင်မင်း အမှတ်တံဆိပ်ဖြင့် အသုံးပြု ထုတ်လုပ်မည်ဖြစ်ကြောင်းနှင့် စာချုပ်စာတမ်း မှတ်ပုံတင်ရုံး၌ မှတ်ပုံတင် ထားရှိမည် ဖြစ်ကြောင်း ဝန်ခံကတိပြု တင်ပြထားပါသည်။

၁၂။ ငွေကြေး အထောက်အထားအဖြစ် မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက် အပါအဝင်(၉)ဦး အမည်ဖြင့် မြဝတီဘဏ် လီမိတက်ရှိ (၂၈-၂-၂၀၁၃)နေ့ ရက်စွဲဖြင့် ငွေလက်ကျန် ကျပ်(၇၃၄.၃၂) သန်း တင်ပြထားရာ သုံးစွဲမည့် ကျပ်ငွေ (၂၇၄၀.၀၀)သန်း ၏ ၂၇ % ရှိကြောင်း စိစစ်ရပါသည်။

နိုင်ငံခြားငွေ အထောက်အထားအဖြစ် Myanma Economic Holdings Ltd. အမည်ဖြင့် MICB ဘဏ်တွင် (၃၀-၁-၂၀၁၃)နေ့ရှိ US$ (၅.၃၁)သန်း၊ (၁၁-၁-၂၀၁၃)နေ့ရှိ Euro ငွေလက်ကျန် (၁၄.၄၂) သန်း၊ MFTB ဘဏ်တွင် (၂၂-၂-၂၀၁၃)နေ့ရှိ US$ (၃.၇၉)သန်း၊ (၂၂-၂-၂၀၁၃)နေ့ရှိ Euro ငွေလက် ကျန် (၁.၆၇) သန်း တင်ပြထားပါသည်။ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများ တန်ဘိုး Euro(၁၇.၈၀)သန်း တင်ပြထားရာ သုံးစွဲရန် ငွေ၏ ၉၀% တင်ပြထားကြောင်း စိစစ်ရပါသည်။

၁၃။ ယင်းလုပ်ငန်းသည် မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ ပြုလုပ် ဆောင်ရွက်ထားမည် ဖြစ်ပါကြောင်း၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ မီးဘေး အန္တရာယ် မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၅။ **စိစစ်တင်ပြချက်။** Myanma Economic Holding Ltd. မှ ပဲခူးတိုင်းဒေသကြီး၊ အင်းတကော် စက်မှုနယ်မြေတွင် မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် နှင့် မန္တလေးတိုင်း ဒေသကြီး၊ ကျောက်ဆည်မြို့နယ်တွင် တစ်ရက်လျှင် တန်(၁၂၀၀)ကျ TPD(Dry) ဆင်မင်း(၃) ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် အဆိုပြုချက် (၂)ခုတင်ပြထားရာ ငွေကြေးအထောက်အထားအား Bank Account တစ်ခုတည်းသာ တင်ပြထားကြောင်း စိစစ်တွေ့ရှိရပါသည်။

၁၆။ သို့ဖြစ်ပါ၍ Myanma Economic Holdings Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်၊ ရဲဘော်ကြီးကျေးရွာအနီးရှိ မြေ (၂၅၂.၃၇)ဧက အနက် (၂၂.၂၃)ဧကတွင် တစ်ရက်လျှင် ဘိလပ်မြေ တန်(၁၂၀၀)ကျ TPD (Dry) ဆင်မင်း(၃) ဘိလပ်မြေစက်ရုံ တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း အပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ
ရုံးလက်ခံ



နောက်ဆက်တွဲ(က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးတိုင်းဒေသကြီး

M. 261
5.3.13

စာအမှတ်၊ ၂ /၃ -၆/၁၂ ဦး ၆ (၈၅၀)
ရက် စွဲ ၊ ၂၀၁၃ ခုနှစ် ၊ မတ်လ ၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃.၁.၂၀၁၃)ရက်စွဲပါစာအမှတ်၊ ရက-၆(က) /မ-၁၂၉၉/၂၀၁၃ (၁၂၉၉ - ဃ)

၁။ မြန်မာ့စီးပွားရေးဦးပိုင် လီမီတက်မှ မန္တလေးတိုင်းဒေသကြီး ၊ ကျောက်ဆည်ခရိုင် ၊ ကျောက်ဆည်မြို့နယ် ၊ ရဲဘော်ကြီး ၊ ဖျောက်ဆိပ်ပင်ကျေးရွာအနီးရှိ မြေ (၂၅၂.၃၇) ဧကတွင် တစ်နေ့လျှင် ဘိလပ်မြေတန် (၁၂၀၀)ကျ TDP (Dry) Add On ဆင်မင်း (၃) ဘိလပ်မြေစက်ရုံတည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်မေတ္တာရပ်ခံလာပါသည်။

၂။ ဖော်ပြပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းနှင့် ပတ်သက်ပြီး မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားကို အောက်ပါအတိုင်း ထောက်ခံပြန်ကြားအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှု မရှိပါ၊
(ခ) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးကိုက်ညီမှု ရှိပါသည်၊
(ဂ) ဖော်ပြပါမြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ပါသည်၊
(ဃ) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အကြံပြုရန်မရှိပါ။

( ရဲမြင့် )
ဝန်ကြီးချုပ်

မိတ္တူကို

မြန်မာ့စီးပွားရေးဦးပိုင်လီမီတက်၊ အမှတ်(၁၈၉/၁၉၁)၊ မဟာဗန္ဓုလလမ်း၊
ဗိုလ်တစ်ထောင် မြို့နယ် ၊ ရန်ကုန်မြို့
လက်ခံစာတွဲ/မျှောစာတွဲ။

နောက်ဆက်တွဲ (ခ)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

M-254
4-3-13

**စာအမှတ်** ၂/၂၂၀(ခ)(၆)/( ၁၃၉၅ / ၂၀၁၃)
**ရက်စွဲ** ၂၀၁၃ခုနှစ်၊ဖေဖော်ဝါရီလ ၂၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ <u>သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ</u>

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၂၃-၁-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ရက-မ(က)/မ-၁၂၉၉/၂၀၁၂(၁၂၉၉-ဆ)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်သို့ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ပင်ကျေးရွာအနီးရှိ မြေ (၂၅၂.၃၇) ဧကတွင် တစ်နေ့လျှင် တန် (၁၂၀၀) ကျ TDP (Dry) Add On ဆင်မင်း (၃) ဘိလပ်မြေစက်ရုံ တည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာအားစိစစ်ရာတွင် ဘိလပ်မြေ ကုန်ကြမ်းပစ္စည်းများဖြစ်သော ထုံးကျောက်၊ ဘောက်ဆိုက် (သံကျောက်)၊ ကျောက်မီးသွေးထုတ်လုပ်ခွင့်နှင့် ဂေါ်ဒန်ကျောက် ဝယ်ယူခွင့်ကို သတ္တုတွင်းဝန်ကြီးဌာန၏ ခွင့်ပြုချက်ရရှိပြီးဖြစ်ကြောင်း၊ ဘိလပ်မြေထုတ်လုပ်မှုနည်းစဉ်နှင့် အဆိုပြုလုပ်ငန်းစီမံကိန်းမှ သဘာဝပတ်ဝန်းကျင်ထိခိုက်မှု မရှိစေရန် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များကို ယေဘုယျအားဖြင့် ဖော်ပြထားပြီး အဆိုပြုစီမံကိန်းလုပ်ငန်း စတင်တည်ထောင် ဆောင်ရွက်သည့်အချိန်မှ လုပ်ငန်းအပြီးသတ်သည့်အချိန်အထိ ပတ်ဝန်းကျင်နှင့် လူမှုရေးအပေါ် ထိခိုက်မှုမရှိစေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ဆောင်ရွက်ထားရှိမည့်အစီအစဉ်များ၊ စက်ရုံအတွင်း စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှု၊ လုပ်ငန်းခွင် ပတ်ဝန်းကျင် လုပ်ငန်း ကဏ္ဍနှင့်ပတ်သက်ပြီး လုပ်သားများပေါ်၌ သက်ရောက်နိုင်သော အသံ၊ ဖုန်မှုန့်၊ ဓာတ်ငွေ့များကို ဆန်းစစ်ခြင်း၊ အလုပ်သမားများ၏ ကျန်းမာရေးအားဆန်းစစ်ခြင်း၊ အလုပ်သမား များအတွက်ကျန်းမာရေးအသိပညာပေးခြင်း၊ ကြိုတင်ကာကွယ်ခြင်းနှင့် လုပ်ငန်းခွင် ကျန်းမာရေး

စောင့်ရှောက်ခြင်းဆိုင်ရာ စီမံချက်များနှင့် စက်ရုံပတ်ဝန်းကျင် ညစ်ညမ်းမှု လျှော့နည်းစေရန် ဆောင်ရွက်မည့်အစီအမံများ ထည့်သွင်းရေးဆွဲထားခြင်း မရှိကြောင်း စီစစ် တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ရာ ကုန်ကြမ်းထုတ်လုပ်ခြင်းနှင့် စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာမည့် အမှုန်အမွှား၊ အခိုးအငွေ့များသည် လူ၊ အပင်နှင့် သတ္တဝါတို့၏ ကျန်းမာရေးနှင့် ပတ်ဝန်းကျင် ထိခိုက်မှုများ ဖြစ်စေနိုင်ခြင်း၊ လုပ်ငန်းသုံးစက်ယန္တယားများ၏ ဆူညံသံကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊ ကုန်ကြမ်းထုံးကျောက်တူးဖော်ရာမှထွက်ရှိသည့် လေးသောသတ္တုများ၊ အညစ်အကြေး သတ္တုရိုင်းများကြောင့် မြေဆီလွှာယိုယွင်းပြုန်းတီးမှု ဖြစ်ပေါ်နိုင်ခြင်း၊ ကုန်ကြမ်း ထုတ်ယူသုံးစွဲခြင်းကြောင့် သယံဇာတပြုန်းတီးမှုဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ ဘိလပ်မြေစက်ရုံတည်ဆောက်မည့်မြေနေရာသည် သစ်တောဦးစီးဌာန၏ ကြိုးဝိုင်း/ကြိုးပြင်ကာကွယ်တောများနှင့် လွတ်ကင်းသော်လည်း ဘိလပ်မြေထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ဖော်ပြပါအချက်များကို ထည့်သွင်းဆောင်ရွက်သွားရန် လိုအပ်ပါသည်-

(က) ဘိလပ်မြေစက်ရုံအတွက် အဓိကကျသော စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်ရည်နှင့် ပတ်ဝန်းကျင်အရည်အသွေးစံချိန်စံနှုန်းတိုင်းတာခြင်းတို့ကိုစက်မှုဝန်ကြီးဌာနမှ သတ်မှတ် ထားသော စံနှုန်းများအရ ဆောင်ရွက်သွားရန်၊

(ခ) ဘိလပ်မြေစက်ရုံတည်ဆောက်မည့်နေရာ နှင့် အဓိကကုန်ကြမ်း ထုံးကျောက် ထုတ်လုပ်မည့် ဧရိယာများ၏ မြေပြင်နှင့်သွင်ပြင်လက္ခဏာ၊ မြေပြင်တည်ငြိမ်မှု အနေအထား၊ မြေအသုံးချမှု၊ မြေပြိုမှုများ ရှိနိုင်-မရှိနိုင် တို့ကို ဆန်းစစ်ရန်၊

(ဂ) ထုံးကျောက်တူးဖော်သည့်အချိန်တွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရန်၊ တောတောင်နှင့်သစ်တောဧရိယာများ မပျက်စီးစေရန် နှင့် မူလအခြေအနေအတိုင်း ရောက်ရှိနိုင်ရေး ပြန်လည်ဆောင်ရွက်ရန်၊

(ဃ) ဘိလပ်မြေထုတ်လုပ်ရာတွင် အဓိကကုန်ကြမ်း ထုံးကျောက် နှင့် လောင်စာကျောက်မီးသွေးကို အသုံးပြုရာမှ ထွက်ပေါ်လာမည့် မီးခိုးတွင်ပါဝင်သော ဓာတုဓာတ်ငွေ့များကြောင့် လေထုညစ်ညမ်းမှု လျှော့နည်းသက်သာစေမည့် ခေတ်မီ နည်းပညာများ၊ စက်ပစ္စည်းကရိယာများ အသုံးပြုရန်၊

(င) မတော်တဆ မီးလောင်ကျွမ်းမှုဖြစ်ပေါ်ပါက အနီးပတ်ဝန်းကျင်ရှိ သစ်တောများသို့ မီးကူးစက်လောင်ကျွမ်းမှုမရှိစေရန် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး အစီအမံများ ထည့်သွင်းဆောင်ရွက်ထားရှိရန်၊

(စ) ဘိလပ်မြေထုတ်လုပ်ရာတွင် အသုံးပြုမည့်စာတုပစ္စည်းများ၊ ဘိလပ်မြေထုတ်လုပ်မှု လုပ်ငန်းစဉ်အတွင်း ပေါ်ထွက်လာမည့်ဖုန်နှင့် အမှုန်အမွှားများတို့ကို ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရေးအတွက် ထိန်းချုပ်ဆောင်ရွက်သွားမည့် နည်းလမ်းများ ပြည့်စုံစွာ ဖော်ပြရန်၊

(ဆ) စီမံကိန်းဧရိယာအနီးရှိ ပြည်သူတို့၏ ကျန်းမာရေးအား ထိခိုက်မှု ရှိနိုင်သဖြင့် စီမံကိန်းလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းဆောင်ရွက်မှုဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်း၊ အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

၅။ သို့ဖြစ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ပင်ကျေးရွာအနီးရှိ မြေ (၂၅၂.၃၇)ဧကတွင် တစ်နေ့လျှင် တန်(၁၂၀၀)ကျ TDP (Dry) Add On ဆင်မင်း (၃) ဘိလပ်မြေစက်ရုံတည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့် ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) ထုံးကျောက်တူးဖော်ခြင်းနှင့် ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် သဘာဝပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရေး၊ ဒေသခံပြည်သူများ ဘေးအန္တရာယ်ကျရောက်မှု မရှိစေရေးနှင့် နစ်နာမှုမရှိစေရေးအတွက် လုပ်ငန်းအကောင်အထည်မဖော်မီ ပတ်ဝန်းကျင်နှင့် လူမှုရေးအပေါ် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental and Social Impact Assessment - ESIA) လုပ်ငန်းများ ဆောင်ရွက်ပြီးမှသာ လုပ်ငန်းဆောင်ရွက်ခွင့်ကို စိစစ်ခွင့်ပြုရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေးအပေါ် ထိခိုက်မှုဆန်းစစ်ခြင်း (ESIA) ဆောင်ရွက်ရန်နှင့် ESIA အစီရင်ခံစာ တင်ပြရန်၊

(ခ) အထက်ပါဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းလမ်းများ၊ စောင့်ကြည့် လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်

သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် EMP အစီအစဉ်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေတို့နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) စီမံကိန်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ဒေသခံပြည်သူများ သိရှိနားလည်စေရန် ရှင်းလင်းဆွေးနွေးပြီး သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ဒေသခံလူထု၏ အကြံပြု သဘောထားများ ရယူဆောင်ရွက်ရန်နှင့် ၎င်းတို့၏ လူမှုဖွံ့ဖြိုးရေး အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုး ဝင်း ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

နောက်ဆက်တွဲ (ဂ)



## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၃၄-စမ(၂) ၂၀၁၂-၂၀၁၃(၄၀၈၄)
ရက် စွဲ ၊ ၂၀၁၃ ခုနှစ် ၊ မတ် လ ၅ ရက်

ကြ.267
5.3.13

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃.၁.၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၂၉၉/၂၀၁၃(၁၂၉၉-စ)

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ပင်ကျေးရွာအနီးရှိ မြေ(၂၅၂.၃၇)ကေတွင် တစ်နေ့တန်(၁,၂၀၀)ကျ TDP (Dry) Add On ဆင်မင်း(၃)ဘိလပ်မြေစက်ရုံ တည်ဆောက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းနှင့်စပ်လျဉ်း၍ လုပ်ငန်းကျွမ်းကျင်မှု နည်းပညာရပ်ပိုင်းဆိုင်ရာ အချက်များအား အထူးပြုပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) တစ်နေ့တန်(၁,၂၀၀)ကျ TPD (Dry) စနစ်ဖြင့် ဆင်မင်း(၃) ဘိလပ်မြေ စက်ရုံ တည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည် ၊

(ခ) အဓိကကုန်ကြမ်းဖြစ်သော ထုံးကျောက်ကို မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ နွားလည်ကောက်တောင်ဒေသရှိ ထုံးကျောက်သိုက်(၂၁၆)ကေနှင့် ကျောက်ပခက်တောင်ဒေသရှိ ထုံးကျောက်သိုက်(၁၄၁.၂၅)ကေတို့မှ ထုတ်ယူသုံးစွဲမည်ဖြစ်ပါသည်၊ သုံးစွဲနိုင်မှုကာလမှာ နှစ်(၁၂၀)ခန့်ဖြစ်ပါသည်။

(ဂ) အခြားကုန်ကြမ်းဖြစ်သည့် ကျောက်မီးသွေးကို စစ်ကိုင်းတိုင်းဒေသကြီး၊ ကလေးဝမြို့နယ်၊ ကျောက်အုံချောင်းဒေသရှိ ကျောက်မီးသွေးလုပ်ကွက် (၅,၁၆၅.၂၅)ကေမှ ထုတ်ယူသုံးစွဲမည်ဖြစ်ပြီး၊ ဂေါဒန်ကျောက်ကို သီပေါမြို့နယ်ရှိ သတ္တု(၃)မိုင်းမှ ဝယ်ယူသုံးစွဲမည်ဖြစ်ပါသည်၊

(ဃ) အဆိုပါဘိလပ်မြေစက်ရုံကို Computer Control စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး တစ်နေ့တန် ၁၂၀၀ Add on လုပ်ငန်းအတွက် Impact Hammer Crusher, Jaw Crusher ကုန်ကြမ်းကြိတ်စက် Shaft Raw Mill, Coal Mill တို့ပါဝင်သော်လည်း စက်စွမ်းအားများ အသေးစိတ်ဖော်ပြထားခြင်းမရှိပါ၊

(င) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိပါသည်။

(စ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မျှတမှုရှိပါသည်။

(ဆ) ထုတ်လုပ်မှုနှုန်းများ တင်ပြထားရှိမှုနှင့် ဈေးနှုန်းတင်ပြထားမှုများ ဆီလျော်မှုရှိပါသည်။

၃။ သို့ပါ၍ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တစ်နေ့တန်(၁,၂၀၀)ကျ TPD(Dry)စနစ်ဖြင့် ဆင်မင်းအမှတ်(၃)ဘိလပ်မြေစက်ရုံတည်ဆောက်ရာတွင် ပတ်ဝန်းကျင်လေထုညစ်ညမ်းမှုမဖြစ်ပေါ်စေရေးသတိပြုဆောင်ရွက်ရန်နှင့် သက်ဆိုင်ရာ ဒေသဌာနအဖွဲ့အစည်းများနှင့် ပတ်ဝန်းကျင်တွင်နေထိုင်သူများ၏ သဘောထားများ ရယူဆောင်ရွက်သင့်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း



နောက်ဆက်တွဲ (ဃ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
**ဝန် ကြီး ရုံး**
နေပြည်တော်

စာအမှတ်၊ ၃၀ ခွဲ (၂) ၁၃ ( ၁၉၉၉ )
ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဖေဖော်ဝါရီလ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ကျေးရွာအနီးတွင် ဘိလပ်မြေစက်ရုံတည်ဆောက်၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃.၁.၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက-မ(က) / မ-၁၂၉၉ / ၂၀၁၃ (၁၂၉၉-င)

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ရဲဘော်ကြီး၊ ဖျောက်ဆိပ်ကျေးရွာအနီးတွင် တစ်ရက်လျှင် တန်(၁၂၀၀)ကျ ဘိလပ်မြေစက်ရုံတည်ဆောက်၍ လုပ်ငန်းဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြသည့်အဆိုပြုချက်ပါ ဘိလပ်မြေစက်ရုံတည်ဆောက်ခြင်းလုပ်ငန်းတွင် နှစ်စဉ်အသုံးပြုမည့် ကုန်ကြမ်း (ကျောက်မီးသွေး၊ ထုံးကျောက်၊ ဂေါဒန်ကျောက်၊ သံကျောက်နှင့် မြေစေး)စသည့် လိုအပ်ချက်နှင့်စပ်လျဉ်း၍ ဤဝန်ကြီးဌာန၏ သဘောထားအကြံပြုချက် ပြန်ကြားပေးပါရန် ကော်မရှင်မှ ရည်ညွှန်းစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တည်ဆောက်မည့် တစ်ရက်လျှင် တန်(၁၂၀၀)ကျ ဘိလပ်မြေစက်ရုံအတွက် တစ်နှစ်ကုန်ကြမ်း လိုအပ်ချက် လျာထားစာရင်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ထုံးကျောက် | (၅၄၃,၄၇၇ ) တန် |
| (ခ) | ကျောက်မီးသွေး | ( ၄၂,၃၄၈ ) တန် |
| (ဂ) | ဂေါဒန်ကျောက် | ( ၁,၂၄၈.၄၀) တန် |
| (ဃ) | သံကျောက် | ( ၄,၈၇၃.၇၀) တန် |
| (င) | မြေစေး | ( ၅၈,၅၀၅.၄၀) တန် |

၃။ အပိုဒ်(၂)ပါ ကုန်ကြမ်း လိုအပ်ချက်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) ထုံးကျောက်တစ်နှစ်လိုအပ်ချက် လျာထားတန်ချိန် (၅၄၃,၄၇၇)တန်အား မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ နွားလည်ကောက်တောင်၊ မြောက်ဘက်ခြမ်း လုပ်ကွက်ဧရိယာ(၂၁၆)ဧက၊ ကျောက်ဆည်မြို့နယ်၊ ရဲဘော်ကြီးကျေးရွာအုပ်စု၊ ကျောက်ပုခက်တောင် လုပ်ကွက်ဧရိယာ (၁၄၀.၂၅)ဧက လုပ်ကွက်(၂)ကွက်တို့မှ ထုတ်ယူနိုင်ပါသည်။

(ခ) ကျောက်မီးသွေးတန်ချိန် တစ်နှစ်လိုအပ်ချက် (၄၂,၃၄၈)တန်အား ကလေးဝမြို့နယ်၊ ကျောက်အုံချောင်းဒေသ ဧရိယာ(၅၁၆၅)ဧက လုပ်ကွက်မှ ထုတ်ယူနိုင်ပါသည်။

(ဂ) ဂေါဒန်ကျောက်တန်ချိန် (၁,၂၄၈.၄၀)တန်အား သီပေါမြို့မှ ဝယ်ယူသုံးစွဲနိုင်ပါသည်။

(ဃ) သံကျောက်တန်ချိန်(၄,၈၇၃.၇၀)တန်အား မန္တလေးတိုင်းဒေသကြီး၊ ပြင်ဦးလွင်မြို့နယ်၊ အင်ယားကျေးရွာအုပ်စု ဧရိယာ(၁၈၀)ဧက လုပ်ကွက်မှ ထုတ်ယူနိုင်ပါသည်။

(င) မြေစေးတန်ချိန်(၅၈,၅၀၅.၄၀)တန်အား နွားလည်ကောက်တောင် အနီးဝန်းကျင်မှ ရယူသုံးစွဲနိုင်ပါသည်။

4/2/13

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
သတ္တုတွင်းဝန်ကြီးဌာန
(မင်းမင်းဦး၊ ရုံးအဖွဲ့မှူး)



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ (မနသ-၁)

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

[ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ဂ ]

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

စာအမှတ်၊ ဦး ဝိုင် /ဆင်မင်း-၃/ထွေ(၀၂၉ /၂၀၁၃

ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ ၉ ရက်

ကျွန်တော် / ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏-

(က)အမည် ဦး သန်း ထွန်း

(ခ) အဖအမည် ဦး တင် အောင် (ကွယ်လွန်)

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ဒဂန (နိုင်) ၀၁၀၃၂၀

(ဃ)နေရပ်လိပ်စာ အမှတ်(၉၈)၊ စံပယ်ဖြူလမ်း၊ ခရေပင်ရိပ်မွန် မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်မြို့။

(င) လူမျိုး၊ ဘာသာ ဗမာ / ဗုဒ္ဓဘာသာ

(စ) အဖွဲ့အစည်း အမည် မြန်မာ့စီးပွားရေး ဦးဝိုင်လီမိတက်

(ဆ)လုပ်ငန်း အမျိုးအစား အထွေထွေစီးပွားရေးလုပ်ငန်းများ အုပ်စု

(ဇ) အဖွဲ့အစည်း တည်ရှိရာအရပ် အမှတ်(၁၈၉/၁၉၁)၊ မဟာဗန္ဓုလလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏-

(က) အမည် (၁) .................................... (၂) ....................................

.................................... ....................................

.................................... ....................................

(ခ) အဖအမည် (၁) .................................... (၂) ....................................

.................................... ....................................

.................................... ....................................

(ဂ) နိုင်ငံသား/ အမျိုးသား မှတ်ပုံတင်အမှတ်

(၁) .................................... (၂) ....................................

(ဃ) နေရပ်လိပ်စာ (၁) .................................... (၂) ....................................

.................................... ....................................

.................................... ....................................

(င) လူမျိုး၊ ဘာသာ (၁) .................................... (၂) ....................................

.................................... ....................................

.................................... ....................................

(စ) အဖွဲ့အစည်း အမည် ....................................................................

(ဆ) လုပ်ငန်း အမျိုးအစား ....................................................................

(ဇ) အဖွဲ့အစည်း တည်ရှိရာအရပ် ....................................................................

....................................................................

....................................................................

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ခု ထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြ ပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား-

(က) ကုန်ထုတ်လုပ်မှု လုပ်ငန်း ...ဘိလပ်မြေထုတ်လုပ်၊ ရောင်းချရေးလုပ်ငန်း

(ခ) ဝန်ဆောင်မှု လုပ်ငန်း ....................................................................

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှု အမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ–

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း
မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက်

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဌာန်–

(က) တစ်ဦးတည်းပိုင် မြန်မာ့စီးပွားရေးဦး ပိုင်လီမိတက်

(ခ) ဖက်စပ်/အစုစပ် လုပ်ငန်း

(ဂ) လီမိတက်ကုမ္ပဏီ

(ဃ) သမဝါယမအသင်း

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့်မတည်ငွေရင်းအချိုးအစား၊ စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက–

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအချိုးအစားနှင့် ပမာဏ

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား

(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)။

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီ ဖြစ်ပါက–

(က) ခွင့်ပြု မတည်ငွေရင်း ..........

(ခ) အစုရှယ်ယာ အမျိုးအစား ..........

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ ..........

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ–

(က) မတည်ငွေရင်းပမာဏ (ကျပ်)

(၁) ငွေပမာဏ ယူရို(၂၅•၆)သန်း + ကျပ်(          )သန်း

(နိုင်ငံခြား မတည်ငွေ ပါဝင်ပါက သီးခြားဖော်ပြရန်)

(၂) စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ ယူရို(၁၇•၀)သန်း

(အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်)

(၃) အဆောက်အအုံများ/မြေ ယူရို(၆.၇၄)သန်း

(၄) ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ

တန်ဖိုးပမာဏ ..........

(အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်)

(၅) ကုန်ကြမ်းပစ္စည်း တန်ဖိုးပမာဏ ကျပ်(၈၂၅၆.၆၄၀) သန်း

(အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်)

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့်

| | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့် ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) | .......... | ယူရို(၁၇•၀)သန်း |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြား အလားတူပစ္စည်းများ၏ တန်ဖိုး (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) | .......... | .......... |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | .......... | ယူရို(၁•၀၆)သန်း |

( ၁၇ )လ

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ–

(က) လုပ်ငန်းအမျိုးအစား ပြည်ပသွင်းကုန်အစားထိုးဘိလပ်မြေထုတ်လုပ်မှုလုပ်ငန်း

(ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှု စသည့်ဖြင့်ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ ဖျောက်ဆိပ်ပင် ကျေးရွာအနီး၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး

(ဂ) ဆောင်ရွက်ပုံနည်းစနစ် Ordinary Portland Cement BS– 12/1996 စံနှုန်းအတိုင်းထုတ်လုပ်၍ ဈေးနှုန်းသက်သာစွာဖြင့် ဒေသန္တရဖွံ့ဖြိုးရေးဝင်ငွေရရှိမည် ။

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက်–

| | အမျိုးအစား | အရေအတွက် |
|---|---|---|
| ၁။ | Diesel | 120,000 gals |
| ၂။ | Gasoline | 2,400 gals |
| ၃။ | Lubricant Oil | 18,000 gals |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက်–

| | အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|---|
| ၁။ | လျှပ်စစ်ဓာတ်အား | 12500 KVA |
| ၂။ | ဓာတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | 500 KVA |
| ၃။ | ဘွိုင်လာ အသုံးပြု အင်ဂျင်စက်အား | |
| ၄။ | သဘာဝဓာတ်ငွေ့ သုံးစက်အား | |
| ၅။ | ပေးပို့သည့်အခြားအား (ရေအား/လေအား စသည်များ) | |

(စ) နှစ်စဉ် ရေလိုအပ်ချက် တစ်ရက်ဂါလံ (၂၂၇,၀၀၀)
(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန်)

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်း လိုအပ်ချက်

| | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|---|
| ၁။ | အဓိက ကုန်ကြမ်း | | | |
| (၁) | ပူး တွဲ ( ၁ ) | | | |
| (၂) | | | | |
| ၂။ | အထောက်အကူ ကုန်ကြမ်း | | | |
| (၁) | ပင်းတယကျောက်မီးသွေး | တန် | ၆၂၀၀၀ | ကျပ်(၃၁၁၂.၄ )သန်း |
| (၂) | ထူးဟန်သစ်ကျောက်မီးသွေး | တန် | ၆၂၀၀၀ | ကျပ်(၄၀၇၃.၄ )သန်း |
| ၃။ | စက်သုံးဆီ/ဓာတ်ငွေ့များ– | | | |
| (၁) | ပူး တွဲ ( ၂ ) | | | |
| (၂) | | | | |

(ဇ) အဆောက်အအုံ လိုအပ်ချက် ယူရို(၇.၃၆)သန်းတန်ဖိုးရှိ စက်ရုံအဆောက်အဦ များတည်ဆောက် ရမည်ဖြစ်ပါသည်။

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်း လိုအပ်ချက် လက်ရှိဆင်မင်း (၁/၂) ဧရိယာမြေဘက်ဘက် ကွက်လပ်တည် ဆောက်ခြင်း ဖြစ်၍လိုအပ်ချက် မရှိပါ။

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ဆောင်ရွက်မည့်ဝန်ဆောင်မှု

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| Cement | Tons | 372,000 | ကျပ်သန်း(၂၆,၀၄၀) |
| | | | |
| | | | |
| | | | |

(ဋ) ဓာင်းခါမသိနေဝင်းစနစ် အထက်မြန်မာပြည် မြို့ကြီးများတွင်လက်လီ၊လက်ကား ဆိုင်များ ဖွင့်လှစ်၍

၁၀။ နှစ်စဉ် ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ-

| | ခန့်မှန်းခြေ | |
|---|---|---|
| | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့် ကျပ်ငွေ | ကျပ်(၁၀၀၇၄.၃၈) သန်း | .................... |
| (ခ) လိုအပ်မည့် နိုင်ငံခြားသုံးငွေ | | .................... |
| (ဂ) ရရှိမည့် နိုင်ငံခြားသုံး ငွေပမာဏ | | .................... |
| (ဃ) ပြည်ပသို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု တန်ဖိုးပမာဏ | .................... | .................... |
| (င) နှစ်စဉ် ပြည်တွင်း၌ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု တန်ဖိုးပမာဏ | .................... | .................... |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများ စာရင်း-

(က) ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်းများ-

| **အမှုထမ်းအမျိုးအစား** | **ဦးရေ** |
|---|---|
| ပူး ထွဲ ( ၃ ) | .................... |
| .............................. | .................... |
| .............................. | .................... |
| .............................. | .................... |

